Khin



# ကျေးဇူး တ[illegible]ကျော်မော် စာဆိုတော်များ

[illegible]သေသော ဂုဏ်ကျေးဇူး။
[illegible]သေသော ဘွဲ့မည်နာမ။
ဘာသာ[illegible]မသေသော အနုလက်ရာများ။

[illegible]ဆက်ဟောင်းများကြွေ၍ မျိုးဆက်သစ်များ ထွန်း၍လာခဲ့သည့်တိုင်၊
[illegible]ဟောင်းများချုပ်၍ ခေတ်သစ်များသို့ ကူးပြောင်းလာခဲ့သည့်တိုင်၊
[illegible]ရှိသော စာဆိုတော်များ၏ ဂုဏ်ကျေးဇူး၊ ဘွဲ့မည်နာမ၊ အနုလက်ရာများကား ပျက်ပြယ် ပျောက်[illegible]သည်မရှိချေ။

[illegible]တ်မမူ ဂုမခြင်၊ သတိမူက မြူပင်မြင်၏။ ဂုဏ်ကျေးဇူးနှင့် အကျိုးရလဒ်ကို သတိမူတတ်သူ၊ မမေ့မလျော့တတ်သူတို့အတွက် ထာဝစဉ် မှတ်မှတ်ထင်ထင်ပင် ရှိ၍နေချိမ့်မည်သာတည်း။

○ "သူတည်းတစ်ယောက် ကောင်းဖို့ရောက်မူ သူတစ်ယောက်မှာ ပျက်လင့်က[illegible]သာ ဓမ္မတာတည်း"

"ပျော်စံရိပ်ငြိမ်၊ စည်းစိမ်မကွာ၊ မင်းချမ်းသာကား၊ သမုဒ္ဒရာ၊ ရေမျက်နှာထက်၊ ခဏတက်သည့်၊ ရေမွှက်ပမာ၊ တသက်လျှာတည့်" အနန္တသူရိယ အမတ်ကြီး၏ မျက်ဖြေလင်္ကာက မင်းနှင့်တကွ နောင်လာနောက်သားများအား ဒေါသအမျက်၏ ဆိုးကျိုးကိုဆင်ခြင်စေ၍ မမြဲသောတရားကို သတိပေးလျက်ရှိ၏။

◉ သဘောမြဲသိပ်၊ညွတ်သားထိပ်ဖြင့်၊အိပ်လည်းရှိခိုး၊ နိုးလည်းကော်ရော်၊ ငါပူဇော်သား၊ နောင်တော်ရှင်ချစ်၊ ဆရာစစ်သည်၊ အနှစ်တစ်ရာ၊ အခါလေးမြင့်၊ အကျင့်သီတင်း၊ သန့်ရှင်းလေလေ၊ တက်နေဗမာ၊ သာသနာဥ္....နောင်တော်ရင်း ဆရာရင်း၏ကျေးဇူးဂုဏ်ထို ဖော်ခဲ့သော ဆရာတော်သျှင်မဟာရဋ္ဌသာရ၏ ပျို့ ဧချင်း လင်္ကာမော်ကွန်း စသည်များက ဘာသာ သာသနာ [illegible]ကျေးမှုအမွေများကိုပေး၏။

◉ မိုးရေစွတ်လို့ အဝတ်ကယီမပေါ၊ သားသမီးကို ကိုယ်ထီးပွေ့ လို့သာ၊ ဆေးတံတစ်ထွာ၊ ကိုက်တစ ထွန်ယင်း၊ လယ်ကွက်လယ်တခွင် ထွန်ရေးငင်၊ ရေဝင်ပုဇွန်တွင်းငယ်နှင့်လေး" ဝန်ကြီးပဒေသရာဇာ၏ လယ်သမားဖွဲ့၊ ထန်းတက်သမားဖွဲ့၊ လှေသမားဖွဲ့ စသည်များက အောက်ခြေဆင်းရဲသားများ ဘဝကို စာနာစိတ်နှင့် သဘာဝကို ချစ်မြတ်နိုးစေ၏။

◉ ဖြူယောင်နှင့် မဲတတ်သည်၊ ဟုတ်ယောင်နှင့် လွဲတတ်သည်။ ဖြူယောင်နှင့် ဓမည်းပါစေနှင့် ဟုတ်ယောင်နှင့် မလွဲပါစေနှင့်။ အထင်နှင့် မဆီမဆိုင်ရှိတတ်သည်။ အမြင်နှင့်မညီနိုင်ရှိတတ်သည်။ အထင်နှင့် ဆီစေချင်ပါသည်။ အမြင်နှင့် ညီစေချင်ပါသည်။" "မိုးရွာမှ ဝမ်းသာသည်၊ သားလာမှချမ်းသာမည်။ မိုးတစ်ပေါက်မျှမရွာပါ၊ သားတစ်ယောက်မျှမလာပါ။ ဇရာကလည်းနှိပ်စက်၊ နေ့ရက်ကိုပြောင်းရွှေ့၍၊ အောက်မေ့ရအဖန်ဖန်၊ အတန်တန်စိတ်မချမ်း၊ ပင်ပန်းသည့်သဘောနှင့်" "တရားကိုဆင်ခြင်ရသည်လည်း တစ်ချက်၊ သားကို မြင်ချင်လှသည်လည်းတစ်ဖက်" စသည့် ကျည်းကန်ရှင်ကြီး၏ မေတ္တာစာများကလည်း တိမ်မယောင်နှင့် နက်လှသော လောကကြီး၊ ပရိယာယ်မာယာများလှသော လောကီရေးရာများတွင် ထိုးထွင်းဆင်ခြင်ဉာဏ်အမြင်များရှိစေခဲ့သည့်တကား။

ဤသို့ဤဝယ် ဤမြေနယ်မှ ထူးလှများပြား စာဆိုတော်များ(၀၁)ရဟန်းရှင်ကြီး လူသူတော်နှင့် မင်းမိဖုရား၊ ဝန်ကြီးစစ်သည်မှူးမတ်၊ မင်းသား၊ မင်းသမီးများစသည့် ခေတ်အဆက်ဆက် မျက်မှောက်ခေတ်တိုင် စာဆိုတော်များ၏ ဂုဏ်ကျေးဇူးများကား ဖွင့်၍ဖော်၍ မဆုံးနိုင်အောင်ရှိချေ၏။

မသေသော ဂုဏ်၊ ဘွဲ့ မည်နာမ၊ အနုလက်ရာများ၏ ကျေးဇူးတရားများကို အောက်မေ့လျက် ဦးခိုက်လျှက်ရှိပါ၏။

မောင်အေးမြင့် (မြန်မာ့ရိုးရာဒီဇိုင်း)



# မြတ်ဆုမွန်

ဘာသာရေး မဂ္ဂဇင်း

အတွဲ(၃)၊ အမှတ်(၇)		၁၉၉၀-ခု ဒီဇင်ဘာလ

**ခေါင်းကြီး** — ဗုဒ္ဓဟောသည့် မြတ်ဆုမွန်

**အဖုံးအညွှန်း** — ဆက်ဆက်ကျေးဇူး ထူးထူးကျော်မော် စာဆိုတော်များ

**ဆောင်းပါး**



**ပရိတ်တရားတော်ဆွေးနွေးခန်း**



**မျက်နှာဖုံးခွင့်ပြုချက်။** (၅/၉၀/၁၁)		**စောင်ရေ-၃၀၀၀**
**စာမူခွင့်ပြုချက်။** (၉၁/၉၀/၁၀)		**တန်ဖိုး-၈ကျပ်**
* ကိုယ်စားလှယ်နှုန်း ၇-ကျပ် *

**အယ်ဒီတာချုပ်**။ ။ဦးထွန်းလှိုင်၊ ဂိုနယာပါရဂူ၊ ဓမ္မာစရိယ၊
(ဂဏာဝါစကာ၊ ဝဋံ့သကာ၊ သီရောမဏိ)

**တာဝန်ခံအယ်ဒီတာ**။ ။ဦးအောင်မွန်

**ဝိပဿနာ**



**ဝတ္ထု**



**ဓမ္မဂုဏ်ရည်ပြ ကိုယ်တွေ့ကဏ္ဍ**



**အမေးအဖြေ**



**နက္ခတ်ဗေဒစာ**



**သာသနာ့သတင်း**





ဖြန့်ချိရေးမှူး။ ။ဒေါ်ရင်ရင်ငွေး
မြတ်ဆုမွန်စာပေ။ အမှတ်-၁၁၅၊ ၃၁-လမ်း၊ ရန်ကုန်မှ ဖြန့်ချိသည်။
ပုံနှိပ်သူ ။ဦးအေးမြင့် (မြ-၀၃၃၄၂)၊ သင်း ပုံနှိပ်တိုက်၊
အမှတ်-ဂဝ၊ ၄၃-လမ်း၊ ရန်ကုန်မြို့။

ထုတ်ဝေသူ။ ။ဒေါ်မြဝင်း(မြဲ-၃၆၀၃)
အမှတ်-၁၁၅၊ ၃၁-လမ်း၊ ရန်ကုန်မြို့။




## ဓမ္မဒေသနာတရားဟောခြင်း

မြတ်ဗုဒ္ဓရှင်တော်ဘုရား ဟောကြားညွှန်ပြတော်မူသည့် ဩဝါဒဒေသနာတော်၌....

၁။ အကုသိုလ်မှုကို မပြုလုပ်ခြင်း၊

၂။ ကုသိုလ်တရားနှင့် ပြည့်စုံစေခြင်း၊

၃။ မိမိစိတ်ကို စင်ကြယ်စေခြင်း၊

ဟူသောအချက်ကြီးသုံးပါးတို့တွင် ဒုတိယအချက်ကြီးဖြစ်သည့် ကုသိုလ်တရားနှင့် ပြည့်စုံစေရန်အတွက် ဖြည့်ကျင့်လုပ်ဆောင်ရမည့် ကုသိုလ်လမ်းမကြီး ဆယ်ပါးကို ရေးသားဖော်ပြခဲ့ရာတွင်၊ ယခုအခါ ကိုးပါးမြောက်ဖြစ်သော ဓမ္မဒေသနာခေါ် တရားလမ်းမကြီးသို့ရောက်ရှိလာပေပြီ။ ယင်းဟောကြားရမည့် တရားလမ်းမကြီးဟူသည်မှာ သတိ၊ သမာဓိ၊ ပညာဟူသော သိက္ခာသုံးပါး အကျင့်မြတ်တရားတော်ပင်ဖြစ်ချေသည်။ ထိုမှတစ်ပါး အခြားသူများကို မထိပါး မနစ်နာစေပဲ အကျိုးတရားဖြစ်ပွားစေနိုင်သည့် အသိပညာ အတတ်ပညာများကို အဆင့်ဆင့် ဖြစ်ပွားအောင်သင်ကြားပို့ချပေးခြင်းမျိုးကိုလည်း ဤဓမ္မဒေသနာကုသိုလ်လမ်းမကြီး၏ အတွင်းသို့ပင် သွင်းယူနိုင်ပေသည်။ ထို့ကြောင့် စာပေ မဂ္ဂဇင်း ဂျာနယ်များတွင် ရေးသား၍ ကောင်းနိုးရာရာများကို ဖော်ပြခြင်းများသည်လည်း ဓမ္မဒေသနာကုသိုလ်တရားဖြစ်သည်ဟူ၍ သိမှတ်သင့်ပေသည်။ ထိုရေးသားချက်များကို ဖတ်ရှုလေ့လာပါလျှင်လည်း ဓမ္မသဝန ကုသိုလ်တရားဖြစ်နိုင်သည်ဟူ၍ပင် သိမှတ်သင့်လှပေသည်။ ဤသို့လျှင် ရေးသားဖော်ပြခဲ့သည့် အကြောင်းအရာအမှု အစုစုတို့ကို ထောက်ရှုဆင်ခြင်မည့်သူ တစ်စုံတစ်ယောက်ကိုမျှ မထိပါး မနစ်နာစေမူ၍ အကျိုးတရားဖြစ်ပွားစေရန်အတွက်သာလျှင် ရေးသားနေသည့် မြတ်ဆုမွန်ဘာသာရေး မဂ္ဂဇင်း၌ မဂ္ဂဇင်း၏ ရည်ရွယ်ချက်လမ်းစဉ်နှင့် အညီဆောင်းပါးများကို ပါဝင်ထည့်သွင်း ရေးသားခြင်းမျိုးကိုလည်း ဓမ္မဒေသနာကုသိုလ် လမ်းမကြီးဖြစ်သည်ဟူ၍ မှတ်ယူသင့်ကြပေသည်။ ထို့အတူပင်လျှင် မြတ်ဆုမွန်ဘာသာရေးမဂ္ဂဇင်း၌ ပါရှိသော အကြောင်းအရာဆောင်းပါးစာများကို လေ့လာဖတ်ရှုခြင်းမျိုးကိုလည်း ဓမ္မသဝနကုသိုလ်လမ်းမကြီးပေါ်သို့ တက်ရောက်လျှောက်သွားနေခြင်းပင် ဖြစ်ကြောင်း မှတ်သားသင့်လှပေသည်။ ယင်းသို့ ရေးသားဖော်ပြခဲ့သည့်အတိုင်း မြတ်ဆုမွန်ဘာသာရေးမဂ္ဂဇင်း၌ မဂ္ဂဇင်း၏ မူဝါဒလမ်းစဉ်နှင့်အညီ ဆောင်းပါးများကို ပါဝင်ရေးသားခြင်းမှာ ဓမ္မဒေသနာကုသိုလ်တရား ဖြစ်ပွား၍ ယင်းမြတ်ဆုမွန် ဘာသာရေးမဂ္ဂဇင်း၌ ပါဝင်သည့်ဆောင်းပါးများကို ဖတ်ရှုခြင်း ဓမ္မသဝနကုသိုလ်တရား ဖြစ်ပွားနိုင်ကြမည်ဆိုပါလျှင် စာရေးစာဖတ် မြတ်ဆုမွန်မရိသတ်ကြီးမှာလည်း "ကုသိုလ်တရားနှင့် ပြည့်စုံစေခြင်း" ဟူသော ဗုဒ္ဓဟောညွှန်မြတ်ဆုမွန်ကြီးကို အမြဲမကွာရရှိနေသည် ဖြစ်ပါကြောင်းကို ဝမ်းမြောက်ဖွယ်ရာ အသိပေးစကား ရေးသားဖော်ပြလိုက်ရပေသတည်း။

စာတည်းချုပ်



အဂ္ဂမဟာပဏ္ဍိတ

# သမိုင်းကန်ဆရာတော်ကြီး အရှင်ဝါသေဋ္ဌာဘိဝံသ၏

## အကျိုးကြီးမားသော မေတ္တာပွားများနည်း တရားတော်

ယနေ့ ဘုန်းကြီးက မေတ္တာတရားပဲ ဆက်ဟောရမှာမို့လို့ မေတ္တာပွားဖို့ တိုက်တွန်းရတယ်။ မြန်မာလောကကြီး ကမ္ဘာလောကကြီးအတွင်းမှာ အားလုံး သတ္တဝါတွေ ဘေးတွေမကြုံရပါစေနဲ့။ ရန်တွေမကြုံရပါစေနဲ့။ အန္တရာယ်တွေ မကြုံရပါစေနဲ့။ အားလုံး ဘေးကင်း ရန်ကင်း အန္တရာယ် ကင်းပြီးတော့ ချမ်းသာကြပါစေဆိုတဲ့ မေတ္တာတရား ပွားများကြဖို့ တိုက်တွန်းရတယ်၊ ပွားရဲ့လား ဒကာကြီး။ (ပွားကြပါတယ်ဘုရား)။ မေတ္တာကြပ်ကြပ် ပွားကြရတယ် နေ့စဉ်။

### သင်္ဂဇာ စကားပုံ

ဘုန်းကြီးတို့ သင်္ဂဇာ ဆရာတော် စကားပုံမှာ တစ်ခါတုန်းက တွေ့တယ်။ တစ်ခါက သင်္ဂဇာ ဆရာတော်ကြီး ရန်ကုန် ကြွလာတော့ - ဝန်ထောက်မင်း ဦးအုံးဆိုတာက ဂရုစိုက်ပြီးတော့ ဆည်းကပ် ပူဇော်တယ်။ အဲ့သလို ဆည်းကပ်ပူဇော် အနား မကြာမကြာရောက်တော့ ဆရာတော်ကြီးက မေးတယ်။ 'ဒကာခေါင်အုံး ဟိုတုန်းကတော့ မင်းမှုထမ်းဆိုတော့ အမှုထမ်း တာဝန်တွေနဲ့ မအားမလပ် ဖြစ်လို့ ဥပုသ်မစောင့်နိုင်၊ တရား အားမထုတ်နိုင်။ နို့-အခု ပင်စင်လေး ဘာလေး ရတော့ ဥပုသ် စောင့်နိုင်ရဲ့လား၊ တရားအားထုတ်နိုင်ရဲ့လား' မေးတော့ 'အခုလဲပဲ သားတာဝန်၊ မယားတာဝန်ဆိုတဲ့ တာဝန်တွေကြောင့် ကောင်းကောင်း အားမထုတ်နိုင်သေးပါ' ဆိုတော့ 'ဒကာက ရှမ်းထမင်းဆာသလိုပါလား'လို့ မိန့်တော်မူတယ်။ အဲဒါနဲ့ 'ရှမ်း ထမင်းဆာသလို ဆိုတဲ့အကြောင်း အမိန့်ရှိပါ ဘုရား'လို့ လျှောက်ထားတော့။

ဆရာတော်ကြီးက အမိန့်ရှိတယ်။ ရှေးက ရွာတစ်ရွာမှာ အလှူလုပ်မလို့ မဏ္ဍပ်ဆောက်ကြတယ်။ မဏ္ဍပ်ဆောက်ကြတော့ ရှမ်းတစ်ယောက်ကရောက်လာတယ်။ ရောက်လာတော့ သူက အသာထိုင်တဲ့ ပြီးတော့ "အင်း မောကလဲမော ဗိုက်ကလဲ ဆာတော့ ဘာမှ မလုပ်ချင်ဘူး"လို့ ညည်းသတဲ့။ ညည်းတော့ အလှူရှင်က ဒီ လူဟာ ထမင်းမစားရသေးလို့ပဲ၊ ထမင်း စားရရင်တော့ သူ အလုပ် လုပ်မှာပဲလို့ ဒီလို တွေးပြီးတော့ ထမင်း ကျွေးတယ်။ ထမင်း ကျွေးတော့ ခုန နေရာလေးမှာပဲသွားအိပ်ပြီးတော့ ထမင်းဝပြန်တော့လဲ ဗိုက်ကားနေတာနဲ့ အလုပ် မလုပ် ချင်တော့ဘူးလို့ ဆိုသတဲ့။ ခုနတုန်းက ဗိုက်ဆာတော့လဲ အလုပ် မလုပ်ချင်၊ အခု စားပြီး လို့ ဗိုက်ကားသွားပြန်တော့လဲ အလုပ် မလုပ်ချင်တော့ဘူးတဲ့။

### အချိန်ရှိတုန်း

အဲဒီတော့ အမှန်အားဖြင့် လူငယ်တွေက တော်သေးတာပေါ့။ အသက်အရွယ်နဲ့ဆိုရင် သူတို့က သေဖို့ ဝေးသေးတယ်။ လူကြီးတွေဆိုဘာဆာတော့ သူတို့နဲ့ စာရင် သေခြင်းဘက်က တော်တော် ပိုနီးနေကြတယ်၊ အဲ့ဒါကြောင့်မို့လို့ ကြိုးစားပြီးတော့ အားထုတ်ကြရတယ်၊ အထူးသဖြင့် အခွင့်သင့်တိုင်း အခါကြုံတိုင်း မေတ္တာတရား ပွားများကြရတယ်၊ မေတ္တာ

နေ့ခက်ဆုံးအင်္ဂါအာ ဇညာရှိရမယ်တဲ့၊ ဇညာရှိမှလဲ တရားပေါက်နိုင်တယ်။ ပညာမရှိရင် တရားမပေါက်နိုင်ဘူး။ ဒီမှာလဲ ဘုရားရှင်ကိုယ်တော်မြတ် ဟောထားတာကတော့-ဥဒယဘယ အဖြစ်အပျက်ကို သိတတ်တဲ့ ပညာနဲ့ပြည့်စုံတဲ့ပုဂ္ဂိုလ်ဖြစ်ရမယ်လို့ မိန့်တော်မူတယ်။ ဒါကြောင့် ပညာရှိရမယ်။

အဲဒီတော့....

ယုံကြည်သဒ္ဓါ၊ ကျန်းမာခြင်းတွဲ၊

စဉ်းလဲမပြု၊ အစးထုတ်မှုပါ၊

သိပညာ ပဓာနိယင်္ဂငါး-ဆိုတဲ့အတိုင်း ပဓာနိယင်္ဂ တရားငါးပါးရှိတယ်။ အဲဒီငါးပါးရှိရင်ကို ဒီပုဂ္ဂိုလ်ဟာ မေတ္တာဖေါက်ရောက်အောင် ပွားများနိုင်တယ်၊

အဲဒီပဓာနိယင်္ဂတရား ငါးပါးပြည့်စုံလို့ရှိရင် ဘုန်းကြီးတို့ အဲဒီပုဂ္ဂိုလ်ဟာ စွမ်းနိုင်တဲ့ပုဂ္ဂိုလ်ပဲ၊ သူက မေတ္တာပွားဖို့ စွမ်းနိုင်တယ်။ မေတ္တာကို ပေါက်ပေါက်ရောက်ရောက်ဖြစ်အောင် ပွားများဖို့ရာ စွမ်းနိုင်တယ်။

အဲဒီတော့ အရှည်မျှော်ပြီးတော့ မေတ္တာတရားတိုးပွားအောင် ပွားပေးဖို့အရေးကြီးတယ်နော်။

မေတ္တေန ကာယကမ္မေန၊

ဝစနေန မနေနစ။

သဗ္ဗလောက သုခတ္ထာယ၊

မေတ္တံ ဘာဝေထ ဘာဝနံ။

မေတ္တေနကာယကမ္မေန-အများသတ္တာ ချမ်းသာဖို့ပြု၊ မေတ္တာကာယကံမှုဖြင့်၎င်း။ မေတ္တေန ဝစနေန-အများသတ္တဝါ-နားချမ်းသာအောင် သာယာဖွယ်ပြောပြတဲ့ မေတ္တာစေတနာဟူသော ဝစီကံမျိုးဖြင့်၎င်း။ မေတ္တေန မနေနစ-သူတပါးကောင်းဖို့ ကြံစည်မေတ္တာ မနောကံဖြင့်၎င်း၊ သဗ္ဗလောကသုခတ္ထာယ-မြွန်မာလောက ကမ္ဘာလောက အလုံးစုံသော သတ္တလောက၏ ချမ်းသာဖို့ အကျိုးငှာ၊ မေတ္တံဘာဝနံ-တစ်ကမ္ဘာလုံး ချမ်းသာဖို့အကျိုး မျှော်ကိုးတောင့်တ ပွားများရတဲ့ မေတ္တာစေတနာဟူသော အဖိုးတန် ဘာဝနာကြီးကို။ ဘာဝေထ-အားကုန်ခဲ၍၊ စွဲမြဲမကွာ ပွားများကြပါကုန်လော့။

သာဓု....သာဓု....သာဓု

သမြေကန်ဆရာတော်ကြီး

# ဗုဒ္ဓဘာသာဟူသည်မှာ

'ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ' စသည်ကို ရိုးရိုးဆို၍ ဘုရား တရား သံဃာတော်အား ကိုးကွယ် ဆည်းကပ်ပါ၏ဟု နှလုံးသွင်း၍ ဆိုရသော လူတို့နှင့် ဆိုင်ရာ သ ရ ဏ ဂုံ ကို ဆောက်တည်ထားသူသည် ဆံရိတ်သင်္ကန်းဝတ်ဆင်ပြီး ဆရာ့ရှေ့၌ ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ စသည့်ကို ဌာန်းကရိုဏ်းပီသစွာ ရွတ်ဆို၍ ဆရာနှင့်တပည့် ဥဘတောသုဒ္ဓိ နှစ်ဦးစုံညီမှ လျှင် ရှင်သာမဏေဖြစ်လေ၏။ ထိုအခါ၌ သရဏဂုံ ရွတ်ဆိုသူ၏ သန္တာန်၌ သာမဏေသရဏဂုံတည်၍ လူ့ သရဏဂုံ ကွယ်တော့သည်။

တစ်ဖန် ထိုသာမဏေသည် အသက်နှစ်ဆယ်ပြည့်၍ ရဟန်းခံလျှင်ပဉ္စင်္ဂ သမ္ပန္နာဂတ အင်္ဂါငါးဝ ပြည့်စုံက သာမဏေသရဏဂုံ ပျောက်၍ ရဟန်းဘုံသို့ ရောက်ရတော့၏။ ထိုအခါ ရဟန်းဖြစ်သော သူသည် သာမဏေမဟုတ်၍ သာမဏေဘဝက ယူခဲ့သော သရဏဂုံလည်း မရှိတော့ပေ။ လူ့သရဏဂုံကား သာမဏေဘဝရောက်စဉ်ကပင် ပျောက်ခဲ့သဖြင့် ရှိသည်ဟု မဆိုတော့ပေ။ သို့သော် နေ့စဉ်ဘုရားရှိခိုးခြင်း၊ ဂုဏ်တော်တို့ကို သရဇ္ဈာယ်ခြင်း ယုံကြည်မှုရှိနေခြင်း၊ ရတနာသုံးပါး၌ အလေးအမြတ် ပြုနေခြင်းတို့ကြောင့် ရဟန်းဘဝ၌ သရဏဂုံမရှိ သရဏဂုံ ပျက်စီးနေသည်ဟု မဆိုသာပါ။ 'ငါမမွေးဖွားမီကပင် ငါ့အမိသည် ငါ့အတွက် သရဏဂုံ ခံယူထားပြီး ဖြစ်၏။ ငါတို့သည်လည်း ရတနာသုံးပါး၌ အလေးအမြတ် ပြုနေ၏၊ ထို့ကြောင့် ငါ သရဏဂုံမခံယူသော်လည်း ငါ၌ သရဏဂုံတည်ပြီး ဖြစ်၏'ဟု ဆိုသော ဗောဓိမင်းသားကဲ့သို့ မိမိယုံကြည်မှုဖြင့် သရဏဂုံ တည်နေသည်ဟု ဆိုသင့်ပါသည်။

တစ်ဖန် ထိုရဟန်းသည် သိက္ခာချ၍ လူ့ဘဝသို့ ရောက် သော အ ခါ တွင်ကား လူစဉ်က သရဏဂုံတလည်း သာမဏေဘဝသို့ ရောက်၍ ကွယ်ပျောက်ခဲ့ပြီး သာမဏေ သရဏဂုံလည်း ရဟန်းဘဝ အရောက်၌ ပျောက်ပျက်ပြီး ဖြစ်ရကား ရဟန်းမှ ပြန်ဆင်းလာသူ အဖို့ သရဏဂုံမရှိတော့ပေ၊ ဥပါသကောတိမံ ဓာရေဟိ-တပည့်တော်အား ဥပါသကာ မှတ်တော်မူပါ ဟု ဆို၍ သိက္ခာချကာ လူဖြစ်လာခဲ့သော်လည်း



# ဗုဒ္ဓဘာသာယူသည်မှာ ရေဝဝထွန်း

သရဏဂုံကို ပြန်လည်၍ ခံယူ ဆောက်တည်မှသာ ဥပါသကာ ဖြစ်ပေတော့မည်၊ ထို့ကြောင့် ရဟန်းဘဝမှ ပြန်ဆင်းလာသူသည် ဦးဦးဖျားဖျား သရဏဂုံ ခံယူရန် အရေးကြီးပေသည်။

လူ့ဘဝတွင် နေရန် သိက္ခာချလာသူ မဟုတ်ဘဲ သိက္ခာပျက်လာသူဖြစ်က ချက်ခြင်း အဝတ်ဖြူ ဝတ်၍ လူ့သရဏဂုံကို ခံယူကာ ဥပါသကာအဖြစ် ဝန်ခံပြီး နောက် ဆရာရဟန်းထံတွင် သာမဏေ သရဏဂုံကို ဌာန်ကရိုဏ်းပီစွာဆို၍ သာမဏေပြုမှ သာမဏေဘဝ တွင် နေနိုင်သည်။ ရဟန်းဘဝက သိက္ခာပျက်ရုံဖြင့် သာမဏေဖြစ် ဟူသည်ကို သတိမူသင့်ပေသည်။

ထိုကိစ္စမျိုးမှတစ်ပါး သရဏဂုံကို စနစ်တကျ ခံယူ ဆောက်တည်ပြီး ဗုဒ္ဓဘာသာဝင် ဖြစ်လာသူ တစ်ဦး အဖို့ ဤတစ်သက်တွင် နောက်ထပ် သရဏဂုံ ဆောက် တည်ဖွယ်ပင်မလိုတော့ပေ။ ဤတစ်သက်မှာ ဗုဒ္ဓဘာ သာမှ အခြားဘာသာတစ်ခုသို့ ပြောင်းကူးမသွား လျှင် သရဏဂုံပျက်ဖွယ် မရှိ။ သရဏဂုံသည် တစ်ကြိမ် ခံယူဆောက်တည်ထားလျှင် ထပ်မံ ဆောက်တည်ဖွယ် မလိုတော့ဟုဆိုသော်လည်း ဗုဒ္ဓဘာသာဝင်တို့သည် ဒါနပြုတိုင်း သီလ ဆောက်တည်တိုင်း သရဏဂုံကို ခံယူ၍ နေကြသည်၊ ဤသို့ ဆောက်တည်ခြင်းမှာ အပြစ်မရှိသည့်ပြင် ခံယူတိုင်းခံယူတိုင်း ကုသိုလ်အသစ် အသစ်ဖြစ်၍နေသဖြင့် ကောင်းသောအမှုပင် ဖြစ်ပေ သည်။

သရဏဂုံသည် တစ်ကြိမ် ခံယူထားက ဤဘဝတွင် ထပ်မံ ခံယူစရာ မလိုဘဲ သေမှသာ ပျက်တော့သည်။ ဘာသာပြောင်း၍ ပျက်ခြင်း နှင့်သေဆုံး ကွယ်လွန်၍ ပျက်ခြင်း နှစ်မျိုးရှိရာ၊သေဆုံးကွယ်လွန်၍ ပျက်ခြင်းမှာ သရဏဂုံကို သေသည်အထိ စွဲမြဲစွာ ခံယူဆောက်တည် သွားခြင်း ဖြစ်၍ သေသူအဖို့ ကောင်းရာသုဂတိသို့ ရောက်ရှိကြောင်း လမ်းကောင်း လမ်းမှန်ပင် ဖြစ်တော့ သည်။

ဤနေရာ၌ လူသေ၍ သရဏဂုံ တင်ခြင်းမှာ သေသူ အတွက် ပြုလုပ်ခြင်း မဟုတ်၊ သေလွန်စဉ် ဖြစ်စေ သုသာန်၌ ဖြစ်စေ၊ ရက်လည်၌ ဖြစ်စေ သေလွန်သူ အတွက် ရည်မှန်း၍ အလှူဒါန ပြုရာတို့၌ သရဏဂုံ သီလကို အဦးမူ၍ လှူသဖြင့် မွန်မြတ်သော ဒါနအမှု ဖြစ်၍ ဘဝတစ်ပါးမှ သာဓုခေါ်နိုင်လျှင် ပို၍ ထူး မြတ်ခြင်း သေသူအတွက် သောက ပွားများနေသူ များအဖို့လည်း သရဏဂုံ သီလဖြင့် သောကကို ထိန်း သိမ်းနိုင်ခြင်းနှင့် သုသာန်မြေ၌ ပေတများ သာဓု အနုမောဒနာ ပြုနိုင်စေခြင်း အကျိုးကျေးဇူးတို့ အတွက် ဖြစ်လေသည်။

နတ် ကိုးကွယ် ခြင်းကြောင့် သရဏဂုံ ပျက်ပါ သလားဟု မေးမြန်းကြသူ အတော်များပါသည်။ နတ် ကိုးကွယ်ခြင်းဟူသည်မှာ ဘာသာတစ်ရပ် အနေဖြင့် ကိုးကွယ်ပါမူ သရဏဂုံပျက်သည်ဟု ဆိုရပါမည်၊ နတ်



မင်းကွန်း

# တိပိဋကဓရဆရာတော်ကြီး၏ ပုတီးစိပ်နည်း

ကျော်လှိုင်

ခင်းကွန်း တိပိဋကဓရ ဆရာတော်ကြီးသည် ခရီးဒေသစာရီ ကြွချီရင်း မီးရထား မီးသင်္ဘောပေါ်၌ နေရာတကျ နေရာထိုင် ခင်းရပြီးသောအခါ ပစ္စာသားဏ ဆက်ကပ်သော ဓမ္မစာစောင်များကို ဖတ်ဆောင်မူပါသည်၊ စာဖတ်ပြီးလျှင် ခါးကြားထဲမှ ပုဝါဖြူကို ထုတ်ယူပါသည်။ ထိုပုဝါ၏ ထောင့်တစ်ခုဌ အိတ်ဆောင်နာရီ အခြားထောင့်တစ်ခု၌ ကန့်ကမာ ပုတီးချည်လျက်သား ရှိပါသည်။ ဆရာတော်ကြီးသည် သက်သာသော အနေအထားဖြင့် ထိုင်နေရင်း၊ လျှောင်းနေရင်း ပုတီးစိပ်တော်မူပါသည်။

ဆရာတော်ဘုရားကြီး စိပ်တော်မူသောပုတီးစိပ်တို့တွင် ရှင်သီဝလိမယ်တော် သုပ္ပဝါသာမင်းသမီး ရွတ်သည့် ဘုရားဂုဏ်၊ တရားဂုဏ်၊ သံဃာဂုဏ်၊ နိဗ္ဗာန်ဂုဏ်နှင့် စပ်သော ဂါထာတို့ကို ရွတ်ဆို၍လည်း ပုတီးတစ်ပတ် စိပ်တော်မူပါသည်။

သုပ္ပဝါသာမင်းသမီး ဇာတ်ကြောင်း

ဤ၌ ရှင်သီဝလိမယ်တော် သုပ္ပဝါသာမင်းသမီး၏ ရတနတ္တယဂုဏ်တော်နှင့် စပ်၍ နှလုံးသွင်းပုံကို ဖော်ပြပါမည်။

မြတ်စွာဘုရားသည် ကုဏ္ဍိကာမြို့ ကုဏ္ဍဓာနတော၌ နေတော်မူစဉ် ရှင်သီဝလိမယ်တော် ကောလိယမင်းသမီး သုပ္ပဝါသာသည် ရှင်သီဝလိကို ကိုယ်ဝန်ဆောင်၍ ခုနစ်နှစ်ပြည့်ပြီးနောက် ၇-ရက်တိုင်တိုင် မီးမဖွားနိုင်ပဲ နာကျင်သည့်ဝေဒနာကြောင့် မူး ဝေသည်အထိ ကိုယ်ဝန်သည်တို့၏ ဒုက္ခကို ခံစားရရှာပါသည်။ ဤသို့ သူတစ်ပါးထက် ထူး၍ ခုနစ်ရက်တိုင်တိုင် ခံစားရသော ဒုက္ခကို သုပ္ပဝါသာသည်-

---

တို့က မိမိအား ချမ်းသာအောင် စေးရန်အန္တရာယ်တို့မှ ကင်းဝေးအောင် ဘာတိုင်းကောင်းမွန်စွာ နေထိုင်ရအောင် လုပ်ပေးလိမ့်မည်ဟု ယုံကြည်၍ ကိုးကွယ်ကြပါမူ ကုသိုလ်ကံ အကုသိုလ်ကံကို ပစ်ပယ်ခြင်းပင်ဖြစ်၍ ဗုဒ္ဓဘာသာတို့၏ ကမ္မသကတာအယူ တာသာမှ သွေဖီ၍ သွားသည်ဟု ဆိုရပေမည်။

'ကိုးကွယ်ပါသည်' ဟူသည့်မျိုး မဟုတ်ဘဲ မိရိုးဖလာဆိုင်ရာ နတ်တို့အား ပူဇော် ပသခြင်းမျိုးကို မူကား ဗုဒ္ဓဘာသာဝင်တို့အနေဖြင့် ဇတားမြစ်သောကြောင့် သရဏဂုံကို ထိခိုက်ခြင်းမရှိပေ၊ ပူဇော်ပသခြင်း ဗလိနတ်စာပေးခြင်း ကျွေးမွေးခြင်း အမျှဝေခြင်း မေတ္တာပို့ခြင်းမျိုးကိုမူကား၊ ပြုလုပ်သင့်ပေသည်။

ရဝေထွန်း

၁။ သမ္မာသမ္ဗုဒ္ဓေါ ဝတ ယော ဘဂဝါ၊
ယော ဂုဏသ ဝေရူပသ ဒုက္ခသ
ပဟာနာယ ဓမ္မံ ဒေသေတိ။

ဒ ကြောင့် ငါတို့သရေ မြတ်စွာဘုရားသည် ဤသို့ သဘောရှိသော ဆင်းရဲဒုက္ခအမျိုးမျိုးကို ပယ်စွန့်ဖို့ ရန် တရားဟောတော် မူပါပေ၏။ ထို ငါတို့ဆရာ မြတ်စွာဘုရားသည် သမ္မာသမ္ဗုဒ္ဓ မမှခပင်း လင်း လင်းသိမြင် သဗ္ဗညုတ ရွှေဉာဏ်တော်နှင့် ပြည့်စုံ တော်မူပါပေစွတကား။

၂။ သုပ္ပဋိပန္နော ဝတ
တဿ ဘဂဝတော သာဝကသံဃော၊
ယော ဂုဏယ ဝေရူပသ ဒုက္ခသ
ပဟာနာယ ပဋိပန္နော။

အကြောင့်မြတ်စွာဘုရား၏ တပည့်သာဝက သံဃာ တော်သည် ဤသို့သော ဆင်းရဲဒုက္ခ အမျိုးမျိုးကို ပယ်စွန့်ဖို့ရန် ကျင့်ကြံကြိုးကုတ် အားထုတ်တော်မူ ပါပေ၏။ ထို မြတ်စွာဘုရား၏ တပည့်သာဝက သံဃာတော်သည် (သုံးပါးသိက္ခာ ကျင့်ဖွယ်ရာတို့) ကောင်းစွာ ကျင့်တော်မူပါပေစွတကား။

၃။ သုသုခံ ဝတ တံ နိဗ္ဗာနံ၊
ယတ္ထဒံ ဝေရူပံ ဒုက္ခံ န သံဝိဇ္ဇတိ။

အကြောင့် တရားမြတ်၏ ဤသို့ သဘောရှိသော ဤ ဆင်းရဲဒုက္ခဝေဒနာမျိုး တစိုးတစိ မရှိပေ၊ ထို နိဗ္ဗာန် တရားမြတ်သည် အလွန့်အလွန် ချမ်းသာပေစွ တကား။

ဤသို့လျှင် ဘုရားဂုဏ် သံဃာဂုဏ် နိဗ္ဗာန်တရား တို့ကို အမြန်မြန် အောက်မေ့ ဆင်ခြင်၍မညည်းမညူ သည်းခံလေသည်။

ဤသို့ ကိုယ်ဝန်ဒုက္ခ ကြီးစွာ ခံစားနေရသည့် ကြားမှ ဘုရားဂုဏ်တရားဂုဏ်ကို အောက်မေ့နိုင်စွမ်း သော သုပ္ပဝါသာ မင်းသမီး ထိုးကို နှုတ်မူ၍ မင်းကွန်း တိပိဋက ဆရာတော်ကြီးသည် ဤဂုဏ်တော်တို့ ကို ရွတ်ဆို၍ ပုတီးတစ်ပတ် စိပ်တော်မူခြင်း ဖြစ်ပါ သည်။

သုပ္ပဝါသာမင်းသမီးရွတ်သည့် ဂါထာတို့၌ နိဗ္ဗာန် ၏ ဂုဏ်တော်သာ ပါ၍ သုံ့ နိဗ္ဗာန်သို့ ရောက်စေ တတ်သော မဂ်အကျင့်၏ ဂုဏ် လိုနေပါသေးသည်။

ထို့ကြောင့် မဟာဂန္ဓာရုံ ဆရာတော်ဘုရားကြီးသည် ထို လိုသော မဂ်အကျင့် ဂုဏ်တော်ကို ဤသို့ ဖြည့် စွက်တော်မူခဲ့ပါသည်။

ဥဇုကော ဝတ သော မဂ္ဂေါ၊
ယံ ဓေဝ ပဋိပဇ္ဇမာနော၊
ဂုဏ် ဝေရူပံ ဒုက္ခံ သမတိက္ကမတိ။

အကြောင့် မဂ္ဂင်ရှစ်ပါး မဇ္ဈိမပဋိပဒါ တရားလမ်း စဉ်ကို ကျင့်ကြံသူသည် ဤသို့ သဘောရှိသော ဤ ဆင်းရဲဒုက္ခ အမျိုးမျိုးကို လွတ်မြောက်နိုင်၏။ ထို မဂ္ဂင်ရှစ်ပါး မဇ္ဈိမ ပဋိပဒါ တရား လမ်းစဉ်သည် ဖြောင့်မှန်စွ တကား။

ဤသို့ မဟာဂန္ဓာရုံ ဆရာတော်ကြီး ဖြည့်စွက် တော်မူသည်နှင့် ပတ်သက်၍-

'မဟာဂန္ဓာရုံ ဆရာတော်ကြီးကို လယ်တီဆရာ တော်ကြီးတို့ဟာ အလွန်တရာ ဉာဏ်ကြီးတော်မူကြ ပါပေတယ်'

ဟု တိပိဋကဓရ ဆရာတော်ကြီး နှုတ်မြွက်၍ ချီးကျူး တော်မူပါသည်။

ဤနည်းအားဖြင့် အလုံးစုံ ပြည့်စုံသွားပြီဖြစ် သော သုပ္ပဝါသာ မင်းသမီးရွတ်သည့် ဂါထာတို့ကို မင်းကွန်း တိပိဋကဓရ ဆရာတော်ကြီး ရွတ်သည့် အစီအစဉ်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

၁။ သမ္မာသမ္ဗုဒ္ဓေါ ဝတ သော ဘဂဝါ၊
ယော ဣမဿ ဝေရူပဿ ဒုက္ခဿ
ပဟာနာယ ဓမ္မံ ဒေသေတိ။ ။

၂။ သုပ္ပဋိပန္နော ဝတ
တဿ ဘဂဝတော သာဝကသံဃော၊
ယော ဣမဿ ဝေရူပဿ ဒုက္ခဿ
ပဟာနာယ ပဋိပန္နော။ ။

၃။ ဥဇုကော ဝတ သော မဂ္ဂေါ၊
ယံ ဓေဝ ပဋိပဇ္ဇမာနော
ဣမံ ဝေရူပံ ဒုက္ခံ သမတိက္ကမတိ။ ။

၄။ သုသုခံ ဝတ တံ နိဗ္ဗာနံ၊
ယတ္ထိဒံ ဝေရူပံ ဒုက္ခံ န သံဝိဇ္ဇတိ၊
ဧဝံ သဗ္ဗဝဋ္ဋေန
သောတ္ထိ မေ ဟောတု သဗ္ဗဒါ။ ။

မင်းကွန်း တိပိဋက ကဝိရ ဆရာတော်ကြီးသည် သုပ္ပိယာမင်းသမီး ရွတ်သည့် ရတနတ္တယ (ရတနာသုံးပါးနှင့်စပ်သော) ဂုဏ်တော်တို့ကို မဟာဗိသုဒ္ဓါရုံ ဆရာတော်ကြီး၏ ဖြည့်စွက်တော်မူချက်နှင့်တကွ ရွတ်ဆိုရုံမျှနှင့် အားရတော်မမူဘဲ အဆုံးသတ်၌-

ဧတေန သစ္စဝဇ္ဇေန

သောတ္ထိ မေ ဟောတု သဗ္ဗဒါ-

ဟု သစ္စာပြုတော်မူပါသည်။

မိမိကိုယ်ကို ရည်စူးလျှင်-

'ဤ သစ္စာစကားကြောင့် ငါ့အား

အခါခပ်သိမ်း ချမ်းသာခြင်း ဖြစ်ပါစေသတည်း'

သူတစ်ထူးကို ရည်စူးလျှင်

ဤ သစ္စာစကားကြောင့် သင့်အား

အခါခပ်သိမ်း ချမ်းသာခြင်း ဖြစ်ပါစေသတည်း။'

ဟု သစ္စာပြု၍ ပုတီးစိပ်တော်မူပါသည်။

သုပ္ပိယာမင်းသမီးသည် ၇-နှစ်တိုင်တိုင် လွယ်ရသော သန္ဓေဒုက္ခမှ ၇-ရက်တိုင်တိုင် မီးမဖွားနိုင်ဘဲ သော သန္ဓေဒုက္ခမှ ၇-ရက်တိုင်တိုင် မီးမဖွားနိုင်ဘဲ ဝေဒနာကို ဘုရားဂုဏ်၊ တရားဂုဏ်၊ သံဃာဂုဏ်၊ နိဗ္ဗာန်ချမ်းသာဂုဏ်တို့ကို အာရုံပြု၍ သည်းခံသည့် ထုံးကို နှလုံးမူ၍-

သက်တော်ကြီး တော်မူပြီ ဖြစ်သော မင်းကွန်း တိပိဋကဓရ ဆရာတော်ကြီးသည် ပရိသတ်အလယ်၌ နာရီပေါင်းများစွာ ဣရိယာပုထ် ကျဉ်းမြောင်းစွာ သီတင်းသုံးတော်မူရလင့်ကစား ကျင်ကြီး ကျင်ငယ် ကိစ္စကိုမျှ မပြု လုံးဝလျစ်လျူရှုတော်မူရာ နေနိုင်တော်မူနိုင်ခြင်း၊ ရှင်လူ ပရိသတ်မစဲ တဖွဲဖွဲ လာရောက်၍ ဖူးမြော် ကန်တော့ကြ၊ လျှောက်ကျ၊ ဆွေးနွေးကြသည်ကို မညည်းမညူ သည်းခံတော်မူနိုင်ခြင်း၊ လက်နှိပ်စက် တချောက်ချောက်ရိုက်၍ ကျမ်းဂန်များ စီစဉ်တော်မူနိုင်ခြင်းသည် ဤ သုပ္ပိယာ မင်းသမီး ရွတ်သည့် ရတနတ္တယ ဂုဏ်တော်တို့ကို ပုတီးစိပ်သည့် အကျိုးတရားပင် ဖြစ်သည်ဟု ဆိုရပါမည်။

ကျော်လှိုင်

# ပိုးလမ်းမနှင့်ပုဂံပြည်

တစ်ခါတုန်းက ကျွန်ုပ်အိမ်ရှေ့ခြံထဲတွင် သစ်ပင်တစ်ပင်၏ အရွက်များကို စားဖိုးဆောင်ကလေးမများက ခူးနေကြသည်ကိုမြင်သည်။ ထို အပင်မှာ ပိုးစားပင်ဖြစ်သည်၊ ကျွန်ုပ်ဆက်၍ တွေးမိသည်။

ကျွန်ုပ်တို့ အလှအပ ဆင်ရင်ဝတ်စားသည့် ပိုးထည် ရက်လုပ်ရသော ပိုးချည်မျှင်ကို ပိုးကောင်ကလေးများမှ ရသည်။ ယင်း ပိုးကောင်ကလေးများကို မွေးမြူရာတွင် ဤ အရွက်ကို အစာအဖြစ် ကျွေးရသည်။ ထို့ကြောင့် ပိုးစာပင်ဟူသော အမည် ဖြစ်ပေါ်လာသည်။

ပိုးချည်မျှင်ကို ထုတ်၍ ပိုးထည် ရက်လုပ်မှုကို စတင် တီထွင်သူမှာ ပြည်ကြီးသားတရုတ်များ ဖြစ်ကြသည်။ သူတို့၏ ပိုးထည်များကို နယ် တစ်နယ်မှ တစ်နယ်၊ လူတစ်မျိုးမှ တစ်မျိုး လက်ဆင့်ကမ်းကာ ဝယ်ကြ ရောင်းကြရာ ခရီးလမ်းကြီးသည် အရှေ့မှ အနောက်သို့ တဖြည်းဖြည်း ဆက်လက်ဆန့်သွားရာ ဥရောပတိုက် မြေထဲပင်လယ်သို့ ရောက်ခဲ့သည်။ ဤကား နောင်သောအခါ သမိုင်းဆရာတို့က မှတ်တမ်းတင်ခေါ်ဝေါ်ကြသော ပိုးလမ်းမကြီးပေတည်း။

ဤ ပိုးလမ်းမကြီး အလယ်ပိုင်းလောက်တွင် ပေးမီးယားကုန်းပြင်မြင့်ကြီးကို ဖြတ်ကျော်ရာ၌ ခရီးသည်တို့သည် တောင်ဖက်သို့ ချိုးကွေ့ဝင်ကြရာ အိန္ဒိယနိုင်ငံ အနောက်မြောက်ပိုင်း ဂန္ဓာရတိုင်း၊ ကသ္မီရနယ်သို့ ရောက်ပါသည်။ ဤ ခရီးဖြင့် ဗုဒ္ဓသာသနာတော်သည် အာရှတိုက်အလယ်ပိုင်းသို့ ပြန့်ပွားသည်။ ယင်းမှတစ်ဆင့် တရုတ်နိုင်ငံသို့ ရောက်သည်။ တရုတ်နိုင်ငံကို ပါဠိကျမ်းဂန်တွင် စီနဟု ခေါ်ပါသည်၊ CHINAနှင့် တူပါသည်။ တရုတ်ပြည်ဖြစ် ပိုးထည်ကို ပါဠိလို (စီနပဋ္ဋ)ခေါ်ကြောင်း သိရပါသည်။

ဤ ပိုးလမ်းမကြီးကို အကြောင်းပြု၍ ဗုဒ္ဓသာသနာတော်သည် တရုတ်နိုင်ငံသို့ ရောက်၊ ကိုးရီးယားပြည်သို့ကူး၊ ဂျပန်ကျွန်းသို့ ဆက်ရာ ဂျပန်နိုင်ငံတွင် သာသနာတော် ပြန့်ပွား ထွန်းကားလေသည်။

ပိုးကောင်ကလေး၏ ပိုးချည်မျှင် ကျေးဇူးကြောင့် သာသနာတော် ပြန့်ပွားကာ အာရှတွင် သာသနာတော် နေမင်းကြီး ထွန်းလင်းသည်ကို အထက်ပါ



# ပိုးလမ်းမနှင့်ပုဂံပြည်

မင်းသုဝဏ်

ဒ တိုင်း ကျွန်ုပ် တို့၏ စဉ်းစား စဉ် ပိုးလမ်းမကြီး၏ ကျေးဇူးကို မြင်လာပါသည်။

ဤပိုးလမ်းမကြီးနှင့် မြန်မာနိုင်ငံတို့ သွယ်ဝိုက်သောနည်းဖြင့် ဆက်သွယ်ပုံကို ဤတွင် အနည်းငယ်သတိပြုစရာ လိုပါမည်။ ပုဂံရာဇဝင် နရသီဟပတေ့မင်း (၁၂၅၄-၈၇) လက်ထက်တွင် တရုတ်တာတာတို့၏လေးသမားအကျော်မြင်းတပ်သားများသည် ပုဂံပြည်ကို ရောက်ခဲ့ကြပါသည်။ သူတို့ထံမှ တစ်ဆင့် တရုတ် ခန် မင်း ကြီး (ကုဗလခန်)၏ မင်း တိုင် ပင်အမတ် အီတလီနိုင်ငံ ဗင်းနစ်မြို့ဇာတိ မာကိုပိုလိုသည် ပုဂံပြည်နှင့် ဆင်တပ်ကြီးများ အကြောင်းကို ပြောဆို မှတ်တမ်းတင်ခဲ့ပါသည်။ သူ့ မှတ်တမ်းထဲရှိ ထိုခေတ်က အာရှတိုက် အရှေ့ပိုင်း သမိုင်းသည် အလွန် ကျေးဇူးကြီးပါသည်။ ဤသို့ မြန်မာ့သမိုင်း၊ အာရှသမိုင်းကို အထူး ကျေးဇူးပြုသွားသော မာကိုပိုလိုသည် တရုတ်ပြည်ကြီးသို့ ဤ ပိုးလမ်းမကြီးဖြင့် ရောက်လာခြင်း ဖြစ်ပါသည်။

(မာကိုပိုလို၏ အတ္ထုပ္ပတ္တိ အကျဉ်းနှင့် ရုပ်ပုံကို မြန်မာ့ စွယ်စုံကျမ်း၊ အတွဲ ၆တွင် တွေ့နိုင်ပါသည်။ ယနေ့ ဗင်းနစ်မြို့ တူးမြောင်း တစ်ခု၏ ကမ်းပါးတွင် မာကိုပိုလို၏ အိမ်ဟု ကမ္ပည်းထိုးထားသော အိမ်ကို တွေ့မြင်ဖူးပါသည်။)

နှစ်ပေါင်း နှစ်ထောင်ကျော်အခါက ဤ ပိုးလမ်းမကြီးကို အကြောင်းပြု၍ တရုတ်နိုင်ငံမှ ပိုးထည် ဖဲထည်များ၊ လက်ဖက်ခြောက်၊ စက္ကူလုပ်နည်း ပညာ၊ သတ္တု ကျိုလုပ်မှုသိပ္ပံ၊ ပိုးမွေးမြူရေး အတတ်တို့သည် အနောက်ပိုင်း ရောမနိုင်ငံဖက်သို့ ကူးပြောင်းစီမ့်ဝင်သွားကြသည်။ တဖန် အနောက်နိုင်ငံများမှ စပျစ်သီးစပျစ်ပင်၊ မုံလာဥဝါ၊ ဖန်ထည် မှန်ထည် ပစ္စည်းများ၊ ကျောက်မျက်ရတနာများ ကူးပြောင်း စီမ့်ဝင်သွားကြသည်။ သိပ္ပံပညာ၊ အတတ်ပညာ၊ ယဉ်ကျေးမှုနှင့် ဆေးဝါးဖော်စပ်ပညာတို့ကို အရှေ့နှင့်အနောက် ဖလှယ်ခဲ့သည်မှာ နှစ်ပေါင်း နှစ်ထောင်ကျော်ခဲ့ပါပြီ။

ပိုးလမ်းမကြီးသည် တရုတ်နိုင်ငံ အရှေ့ဖျား ဝုတီကောရာဇ် (ဘီစီ ၁၅၆-၈၇) မင်းကြီး၏ နေပြည်တော် ရှီအန်းမြို့တွင် အစပြုပါသည်။ ထို မင်းကြီးပင် ဤ လမ်းမကြီး တစ်လျှောက်ရှိ ဩဇာ အာဏာရှိသူ အကြီး အကဲ မင်းစိုးရာဇာများထံ လက်ဆောင်ပဏ္ဏာများပို့ကာ မဟာမိတ်ဖွဲ့၍ လမ်းခရီး ပြေချောအောင် အားထုတ်ခဲ့ပါသည်။ ဤသို့ဖြင့် အရှေ့အနောက် ပူးပေါင်း ဆောင်ရွက်မှုကြီး အခက်အခဲအဖျက်အဆီးများအကြားမှ အောင်မြင် ထမြောက်ခဲ့ပါသည်။ ဤလမ်းခရီး၏ တရုတ်နိုင်ငံအဝင် အာရှအလယ်ပိုင်းအထွက်တွင် တည်ရှိသော တုံ့ဟွမ် လိုဏ်ဂူများကား သာသနာစတော်၏ ရှေးဟောင်းပြတိုက်ကြီး ဖြစ်ပါသည်။ ယခုအခါ တရုတ်နိုင်ငံ ကမ္ဘာ့ ခရီးသွားလှည့်လည်ရေး လုပ်ငန်းတွင် ငွေဝင်ပေါက်ကြီး တစ်ခု ဖြစ်သော ဤ လိုဏ်ဂူများကို တရုတ် အစိုးရသည် အထူးပြုပြင် စောင့်ရှောက် ထိန်းသိမ်းလျက်ရှိပါ၏။ မြန်မာနိုင်ငံတွင် ပုဂံနယ်မြေ အရေးကြီးသကဲ့သို့ ဖြစ်ပါ၏။ မာကိုပိုလိုက ဤနှစ်ချက်ကို ဆက်စပ်ပေးခဲ့ပါသတည်း။ ။

မင်းသုဝဏ်

# ဂျုံးဂျုံးကျတောရ
## ပထမ ဆရာတော်ဘုရားကြီး
## ဦး[illegible]
ရှည့်အကျဉ်း



ကျော်နှင်းအောင်
ပူဇော်သည်

### ထေရုပ္ပတ္တိအကျဉ်း

ဆရာတော် လောင်းလျာကို ၁၂၁၅ခုနှစ်၊ ပြာသို လဆုတ်(၈)ရက် သောကြာနေ့တွင် ဖခင် ဦးသာ အေးနှင့် မိခင် ဒေါ်ဇာလီတို့မှ ရန်ကုန်မြို့၌ ဖွားမြင် တော်မူလေသည်။ အမည်မှာ မောင်ရွှေပြေးဖြစ်သည်။ ၁၂-နှစ်အရွယ်တွင် ရှင်သာမဏေဘဝသို့ ရောက်ရှိ သည်။ ဘွဲ့တော်မှာ အရှင်သုဇာတ ဖြစ်သည်။

အသက် ၁၈-နှစ်အရွယ်မှ စ၍ ပါဠိ၊ အဋ္ဌ ကထာ၊ ဋီကာစသည့် ဗုဒ္ဓ စာပေတို့ကို ထူးချွန် စွာ သင်ကြား၍ တတ်မြောက်လေသည်။ ၁၂၃၅-ခုနှစ်၊ သက်တော် ၂၀-အရွယ်တွင် ရန်ကုန်မြို့ အင်း လျားဆရာတော်ကြီးကို ဥပဇ္ဈာယ် ပြုလုပ်၍ မြင့်မြတ် သော ရဟန်းအဖြစ်သို့ရောက်တော် မူသည်။ မော်လမြိုင်၊ မန္တလေးမြို့ များသို့ လှည့်လည် သီတင်းသုံး၍ စာပေသင်ယူခြင်း တရားဟောခြင်း များကို ပြုလုပ်တော်မူလေသည်။ ရဟန်း ဘွဲ့ တော်မှာ ရှင်သုမနဖြစ် သည်။

၁၂၅၄-ခုနှစ်တွင် ဂျုံးဂျုံးကျ တောရ ကျောင်းကြီးကို တည် ထောင်တော်မူ၍ ပဋိပတ်အလုပ်ကို မနေမနား ကြိုးစား၍ သီတင်းသုံး စံပျော်တော်မူလေသည်။ ဝန္ဒနာဒီပ ကျမ်း၊ ဒေသနာလမ်းမှန် စိတ္တဝဏ္ဏ ကျမ်း၊ နိယျာနိကကျမ်း၊ သဂ္ဂမဂ္ဂ ကထာ ရှုဖွယ်ကျမ်း၊ ဝိပဿနာ ကျမ်း၊ နမောဝိမုတ္တိရသ ရှုဘွယ် ကျမ်းတို့ကိုလည်း ရေးသားတော် မူခဲ့ပေသည်။

ဆရာတော်သည် ဂျုံးဂျုံးကျ ဝိပဿနာရိပ်နန်း တောရ စခန်းတွင် (၁၂)နှစ်တိုင်တိုင် သီတင်းသုံး၍ တရားရှုမှတ် ပွားများခဲ့ပေသည်။ ဓုတင်များကိုလည်း အခါအားလျော်စွာ ရသမျှ ဆောင်ရွက်တော်မူလေ သည်။ ၁၂၈၅-ခု၊ ပြာသိုလပြည့်ကျော် ၁-ရက်၊ တနင်္လာနေ့ညတွင် စုတိကမ္မဇရုပ် ချုပ်ငြိမ်းတော်မူ လေသည်။

### ဩဝါဒတော်

ဖြစ်လေရာဒေသ၊ ပြုသမျှသူ့ ဒက်
ရန်တုံ့ပြန်၊ စိတ်မသွားစေနှင့်။

တားဆီးကြကုန်၊ အလေနစိတ်မကောင်းကို
ဘာဝနာချွန်းတောင်းနှင့်၊
ကောင်းကောင်းကြီးဆီးကာကြကုန်။

## ရှုနည်းအကျဉ်း

ဘုရား၊ တရား၊ သံဃာ၊ ဆရာ၊ မိဘဟူသော အနန္တဂုဏ်ရှင် ငါးပါးတို့၌ လွန်ကျူးသမှု ပြုမှားမိသော ပြစ်မှုများကို တောင်းပန်ခြင်း၊ အန္တရာယ်ခပ်သိမ်း ကင်းငြိမ်းစေမှုဆန္ဒပြု၍ ကာကွယ်မှုကို ပြုခြင်း၊ မိမိကိုယ်ကို စွန့်လွှတ် လှူဒါန်းခြင်း၊ သရဏဂုံဆောက်တည်ခြင်း၊ သီလဆောက်တည်ခြင်း၊ ကမ္မဋ္ဌာန်းတောင်းခြင်း တည်းဟူသော ပုဗ္ဗဘာဂပရိကမ်ကို ပြုလုပ်ရမည်။ ထို့နောက် အောက်ပါအတိုင်း ရှုမှတ်နည်းကို အာရုံယူပါ။

၁။ ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ။ ၂။ ဓမ္မံ သရဏံ ဂစ္ဆာမိ။ ၃။ သံဃံ သရဏံ ဂစ္ဆာမိ။ ၄။ အနိစ္စ၊ ၅။ ဒုက္ခ၊ ၆။ အနတ္တ၊ ၇။ အာန၊ ၈။ ပါန၊ ၉။ နိဗ္ဗာန်။ ဤကိုးဌာန အာရုံကိုးချက်ကို ရှုမှတ်ပါ။

ဗုဒ္ဓံ သရဏံဂစ္ဆာမိ၊ မြတ်ဘုရား၏ အရဟံစသော ဂုဏ်တော်များကို အဖန်ဖန် အထပ်ထပ် အောက်မေ့ဆင်ခြင် ရှုပွားမှတ်သား ဆောက်တည်ပါ။

ဓမ္မံ သရဏံဂစ္ဆာမိ- မြတ်တရား၏ သွာက္ခာတော သန္ဒိဋ္ဌိက စသော ဂုဏ်တော်များကို အဖန်ဖန်အထပ်ထပ်အောက်မေ့ဆင်ခြင် ရှုပွားမှတ်သား ဆောက်တည်ပါ။

သံဃံ သရဏံ ဂစ္ဆာမိ-မြတ်သံဃာ၏ သုပ္ပဋိပန္နော စသော ဂုဏ်တော်များကို အဖန်ဖန် အထပ်ထပ် အောက်မေ့ဆင်ခြင် ရှုပွားမှတ်သား ဆောက်တည်စေရာသည်။

မကောင်းသော အမှုကိစ္စကို ပြောဆို ပြုလုပ်ရတော့မည်ဆိုလျှင် မိမိ၏ သရဏဂုံ ဆောက်တည်သူ၏ အဖြစ်ကို သတိရ ဆင်ခြင်၍ ရဲရင့်စွာ မကြောက်မရွံ့ ပြောဆို ပြုလုပ်အားထုတ်ပါ။ ထိုကဲ့သို့ ကြိုးပမ်း အားထုတ်ပါများလျှင် ထိုသူသည် သရဏဂုံ တည်သူ ဖြစ်လာလိမ့်မည်။ ဂုဏ်တော်များကို မပြတ်ဆောက်တည်ပါများလျှင် သရဏဂုံ တည်သူ ဖြစ်လာလိမ့်မည်။ တစ်ကြိမ်တစ်ခါ ဆောက်တည်ကာမျှဖြင့် သရဏဂုံ တည်သူ ဖြစ်ဖို့ရန် ခဲယဉ်းလှပေသည်။

သရဏဂုံ သညာဖြင့် အကြိမ်ကြိမ် မွမ်းထုံပြီးနောက်၊ မိမိစိတ်ကို မိမိ၏ နှာခေါင်းဖျား၌ ထား၍ ထွက်လေ ဝင်လေနှစ်ပါးကို အာရုံပြုပါ။ နှာသီးဖျားမှ ထွက်သွားသောလေကို ထွက်လေဟု သိပါ။ တိုးဝင်လာသောလေကို ဝင်လေဟု သိပါမှတ်ပါ။

မိမိစိတ်ကို အခြားသို့ မရောက်စေဘဲ ထွက်လေ ဝင်လေကို မှန်မှန်ရှုထုတ် ရှုသွင်း၍ ၎င်း ထွက်လေ ဝင်လေကိုသာ မှတ်ပါ။ အားမစိုက်ပါနှင့်၊ သူ့သဘောအတိုင်းဖြစ်ပါစေ၊ မိမိတာဝန်ကား ၎င်း ထွက်လေ ဝင်လေကို ရှုမှတ်ရန်သာ ဖြစ်သည်။

ဤကဲ့သို့ ရှုမှတ်သည်ရှိသော် ထွက်လေ ဝင်လေ မှန်၍ ယောဂီပုဂ္ဂိုလ်၏ စိတ်သည် ထွက်လေ ဝင်လေ တည်းဟူသော သင်္ခါရအာရုံ၌ ငြိမ်သက် တည်နေသည်၊ ဥပမာကား ရိုင်းစိုင်း၍ ပြေးလွှားတတ်သော နွားကို မပြေးနိုင်အောင် ခိုင်ခန့်သော တိုင်ကို စိုက်၍ မြဲခိုင်သော ကြိုးဖြင့် ဖွဲ့ချည်၍ထားမူ ပြေးလွှားတတ်သော နွားရိုင်းသည် မပြေးလွှားနိုင်တော့ဘဲ ကြိုးဖြင့် ချည်နှောင်ထားသော တိုင်ရင်း၌ပင်လျှင် ငြိမ်ဝပ်စွာ စား၊ ငြိမ်ဝပ်စွာအိပ်ပြီး ယဉ်ပါးလာမည်။ ထိုအခါ ငြိမ်ဝပ်၍ ယဉ်ပါးသော နွားကို နွားရှင်သည် လိုရာအသုံးပြုနိုင်သကဲ့သို့ ထို့အတူ ပြေးလွှားတတ်သော နွားရိုင်းနှင့် တူသော မငြိမ်သက်မတည်ကြည် ထိုထို ဤဤ အာရုံသို့ ပြေးလွှားတတ်သော စိတ်ကိုမြဲခိုင်အောင် စိုက်အပ်သော တိုင်နှင့်တူသော ထွက်လေ ဝင်လေ အာရုံ၌ မြဲခိုင်သော ကြိုးနှင့် တူသော သတိဖြင့် ထွက်လေကို ထွက်လေမှန်းသိအောင် ဝင်လေကို ဝင်လေမှန်းသိအောင် ရှုမှတ်နေလျှင် ပြေးလွှားတတ်သော နွားရိုင်းသည် မပြေးလွှားနိုင်ဘဲ ကြိုးနှင့် ချည်နှောင်ထားသော တိုင်ရင်း၌ပင်လျှင် ငြိမ်ဝပ်စွာ စား၊ ငြိမ်ဝပ်စွာ အိပ်၍ ယဉ်းပါးသည့်နည်းတူ၊ ထိုထို ဤဤသို့ ပြေးလွှားတတ်သော စိတ်သည် ထွက်လေ ဝင်လေအာရုံ၌ သတိဖြင့် မြဲစွဲစွာ ချည်နှောင်ရှုမှတ်ဖန်များလျှင် ထို ထွက်လေ ဝင်လေ တည်းဟူသော အာရုံတိုင်၌သာလျှင် ငြိမ်သက် တည်နေလိမ့်မည်၊



# တောင်တန်းဆရာတော်ဘုရားကြီး၏ သတင်းကြီးသည့် ချင်းတောင်ပေါ်မှအလင်းရောင်ကြီးတရားတော်

ဓမ္မာစရိယ

## ဦးမြေးလှိုင်

ဘုန်းကြီးထံသို့ မည်သူ လာရောက်ပြီး လျှောက်ကြသည့်ဖြစ်စေ၊ ဘာ့ကြောင့် ထို အလင်းရောင်ကြီး ဖြစ်ပေါ်နေခြင်း ဖြစ်မယ်လို့ တစ်ကြိမ်မျှ ပြန်လည်ဖြေကြားဖူးခြင်း မပြုပါ။ စိတ်ဝင်စားခြင်းလဲ မရှိပါ။ ထိုသူတို့ ညအခါ မြင်နေရသော အလင်းရောင်ဆိုသည့်ကို ဘယ်တောင်ပေါ်မှ ဘာကြောင့် ထွက်ပေါ်နေခြင်းဖြစ်ကြောင်း ဘုန်းကြီးကိုယ်တိုင် အမှန်ကို မသိသေးသောကြောင့်လဲ ဖြစ်တယ်။ သိရှိဖို့ လေ့လာခြင်းလဲ မပြုပါဘူး။

အဆိုပါ အလင်းရောင်ကြီးအကြောင်း ဒီလောက်နှင့် အပြီးမသတ်သေးပါ။ ဖလမ်းမြို့၌လဲ စိတ်ဝင်စားဖွယ်ရာ သတင်းတူးကြီးအဖြစ် အဆင့်ဆင့် ပြောနေကြတယ်လို့ ဆိုတယ်။

တစ်နေ့တော့ ချင်းတောင် ပြည်နယ်ပညာရေးမှူးဖြစ်တဲ့ (မြင်းခြံသား) ဦးမောင်ခန့်က သူရဲ့ ဌာနဆိုင်ရာကားဖြူကလေးစီးပြီး ဘုန်းကြီးထံ ရောက်လာကယ်။ အလင်းရောင်ကြီး သတင်းစကား ကြားရချက်ကို သိချင်လို့ တမင်လာရောက် မေးမြန်းခြင်း ဖြစ်ကြောင်း နားလည်ရတယ်။ အလင်းရောင် ထွက်ပေါ်နေခြင်း အကြောင်းကို တစ်စုံတစ်ရာ မပြောလိုက်ပါ။ စိတ်ဝင်စားခြင်း မရှိလို့လဲ 'အင်း–ဒီလိုပဲ ပြောနေကြတာပဲ' လို့ သာမန်မျှသာ ပြောလိုက်ပါတယ်။

ပြည်နယ် ပညာရေးမှူး (ရှေးခေတ်သုံး စကားဖြင့်) တိုင်းပညာဝန် ဦးအောင်ခန့် လျှောက်သွားတဲ့ စကားလိုရင်းများက–

'ကောင်းကင်ပြင်ကြီး တစ်ခုလုံး မိုးမှောင်ကြီးကျနေချိန် ည (၉)နာရီအကျော်မှာ ဝေါရခါးရွာမှ လူပြောများနေတဲ့ ကောင်းကင်ပြင် အမြင့်ကြီးပေါ် ရောက်အောင် အလွန်အားကောင်းတဲ့ ဆလိုက်မီးကြီး ထိုးပြထားသလို လင်းထိန်နေတဲ့ အလင်းရောင်ကြီးကို အံ့သြဖွယ် မြင်ကြရပါတယ်။ တစ်ယောက်မှ တစ်ယောက် တစ်အိမ်မှ တစ်အိမ် ပြန့်ပွားပြီး စိတ်ဝင်တစား ပြောနေကြပါတယ်။ ဖလမ်းမြို့ သက်သာလက်ဖက်ရည်ဆိုင်မှာ တပည့်တော်ကိုယ်တိုင် ကြားသိခဲ့ရတာကတော့ ဆရာတော်ကြီး သီတင်းသုံးနေတဲ့

ကျောင်း၏ ခေါင်မိုးပေါ်မှ ထွက်လာကြောင်း ဂေါ်ရခါးတွေ သွားရောက် ကြည့်ကြလို့ မြင်ကြရတယ်လို့ ပြောပါတယ်။'

### အကြောင်းမှန် သိရပြီ

ပွင့်ပွင့်လင်းလင်း ပြောပါ့မယ်။ဘုန်းကြီးရဲ့ နေ့စဉ် ပုံမှန်နေနည်း နေဟန်ကို ပြောမယ်။ ဘုန်းကြီးဟာ တစ်နေကုန် အလုပ်နှင့်နေမြဲ ဖြစ်တယ်။နေ့ခင်း ခေတ္တ အနားယူချိန် ဆွမ်းစားချိန်မှ လွဲလျှင် မနက် အချိန် အားလုံး အလုပ်နှင့်နေကြောင်း အနီးကပ် လေ့လာ သူတိုင်းက သိမြင်ကြပါတယ်။

ညနေပိုင်း အလုပ်က နေဝင်ဖြိုးဖျအချိန်က တော တောင်မှာ ရှိကြသော နတ်များ၊ စကြဝဠာအနန္တ မှာရှိကြတဲ့နတ်များကိုဖိတ်ခေါ်ပြီး တရားဟောတယ်။ ပုံမှန်နတ်များအတွက် "သတသဟဿရဟ" ဂါထာ (အဖိုးတစ်သိန်းတန် ၈ ါထာ)ကို ရွတ်ဆိုပြီး အမျှ ပေးဝေတယ်။

ဆက်ပြီး ပရိတ်ကြီး(၁၁)သုတ်ကို ရွတ်ဆိုတယ်၊ ဘုရားရှိခိုးခြင်းကို မီးပူဇော်နေဆဲအခါ တိုတိုလိုရင်း စိတ်အာရုံပြု ရှိခိုးနေရင်း လို ရာ ဆုကို လေးနက်စွာ တောင်းဆိုတယ်။

ထို့နောက် တရားထိုင်ခြင်း၊ စာရေးခြင်း အလုပ် ကို ရာသီဥတုအလျောက် လုပ်တယ်။ ရာသီဥတုအလွန် ဆိုးဝါးချိန်မှာ ည ၉-နာရီကျော် အိပ်ရာဝင်တယ်။ ရာသီဥတု မဆိုးလျှင် ၁၀-နာရီ၊ ၁၁-နာရီကျော်မှ အိပ်ရာဝင်တယ်။ ရံခါ အလုပ်များလျှင် ည ၁-နာရီ ကျော်မှ အိပ်ရာဝင်ပြီး၊ အာရုဏ်ဦး ၃နာရီ အချိန် ထပြီး စာရေးတယ်။

အိပ်ရာဝင်ခဲ့လျှင် မိမိနေထိုင်လျက် ရှိသော တော တောင်ကြီးကို အစပြုပြီးသတ္တလောကကြီး တစ်ခုလုံး ခြုံငုံမေတ္တာ ဖြန့်တယ်။ သက်ရှိ သတ္တဝါအားလုံးကို ဘုန်းကြီးရဲ့ မေတ္တာနှင့် ကရုဏာ အောက်သို့ သိမ်း သွင်းပြီး မေတ္တာစိတ် ဖြန့်ကျက်တယ်။ ထိုသို့လုပ်ရမှ စိတ်အာရုံရှင်းပြီး ကြည်လင်နေတယ်။

ထိုအခါ ကိုယ်ခန္ဓာ ဣရိယာပုထ်ကို အနည်းငယ် ပြင်ဆင်တာ လက်ယာစောင်း အိပ်လိုက်ပြီး အာနာ ●ါနဿတိ္တဌာန်း အာရုံယူလိုက်တယ်။

ရာသီဥတု အေးချမ်းတဲ့ တောကြီး တောင်ကြီးထဲ ဖြစ်လို့ စောင်ထူထူ ခြုံပြီး အိပ်ရမြဲ ဖြစ်တယ်။ အလွန် အေးချမ်းတဲ့ တောကြီး တောင်ကြီးရဲ့ အအေးဆုံး ဆောင်းရာသီ အလယ်မှာဆိုရင် ဘုန်းကြီးက ရနိုင် သမျှ စောင် ၉ထပ်လောက် ခြုံပြီး အိပ်ပါတယ်။

အိပ်ရာဝင် စောင်ခြုံပြီး ရတနာသုံးပါးရှိခိုးခြင်း၊ ပတ်ဝန်းကျင်မှစ၍ သတ္တလောကတစ်ခုလုံးခြုံငုံမေတ္တာ ဖြန့်ပွားခြင်း ပြုနေစဉ်မှာပဲ အလင်းရောင် ထွက်လာ နေတယ်၊ အာနာပါန ဘာဝနာရှုပွားနေခိုက်မှာဆိုရင် ဖြူဖွေးသော အလင်းရောင်ကြီး လင်းလိုက်ပုံက အပ်နဖားပေါက် ထိုးလို့တောင် ရနိုင်လောက်တယ် ထင်မိတယ်။

အဲ ဒီ အလင်းရောင်က အားကောင်းလာတော့ ကျောင်းခေါင်မိုးကို ထွင်းဖောက်ပြီး အပေါ်ကော့င်း ကင်ပြင်မှမြင့်မားစွာ ထိုးထွက်နေတယ်၊ ဒီအကြောင်း လူအများက မေးမြန်း လွန်း မက မေးမြန်းကြမှ ဘုန်းကြီးလဲ သတိပြု ဆင်ခြင်မိခါမှ အဖြစ်မှန်ကို သိရတော့တယ်၊ ချင်းလူမျိုးတွေဂေါ်ရခါးတွေ ညစဉ် ညတိုင်း တွေ့မြင်နေကြတဲ့ အလင်းရောင်ဆိုတာ ဂေါ်ရခါးတွေ ခြေရာခံပြီး ညတွင်းချင်းလေ့လာ စုံစမ်းကြတော့မှ ဘုန်းကြီးကျောင်း ခေါင်မိုးပေါ်က ဆလိုက် မီးရောင်ကြီးလို ထွက်နေကြောင်းမြင်တွေ့ သွားခြင်း ဖြစ်တယ်။

ဓမ္မာစရိယ ဦးဌေးလှိုင်





# ဗုဒ္ဓသာသနာကမ္ဘာသို့ပြန့်အောင်

ထင်လင်း

"ဗုဒ္ဓဝါဒဟာ တကယ်ငြိမ်းချမ်းရေးဝါဒ ဖြစ်ပါတယ်။ ဝိပဿနာအလုပ်ဟာ နိုင်ငံတကာ အတိုင်းအတာနဲ့ကြည့်ယင် အင်မတန် နှီးနှောဖလှယ်သင့်တဲ့ အကြောင်းရပ်ဖြစ်ပါတယ်။ ဘာဖြစ်လို့လဲဆိုတော့ ကမ္ဘာနိုင်ငံများစွာမှာ ဒီဝိပဿနာအလုပ်နဲ့ ပတ်သက်ပြီးတော့ သဘောထားကြပုံ အမြင်အမျိုးမျိုးရှိတာကတစ်ကြောင်း၊ ဝိပဿနာအလုပ်ကို ဒုက္ခခပ်သိမ်း ကင်းငြိမ်းရေးကို ရှေးရှုတဲ့အလုပ်လို့ လူအတော်များများ လက်ခံထားကြတာကတစ်ကြောင်း။ ဒီကိစ္စနဲ့ တစ်နည်းမဟုတ်တစ်နည်း တွေ့ကြုံပတ်သက်လာပြီဆိုရင် ကိုယ့်အတွေ့ ကိုယ့်အမြင်နဲ့ ကိုယ်အားထုတ်မှုအလိုက် ပေါက်ရောက်ထင်မြင်မှုတို့ကို ဆွေးနွေးမယ်ဆိုရင် ဆွေးနွေးစရာတွေက အများကြီးပါပဲ။"

"သဘောထား အမျိုးမျိုးဆိုတာက ဘယ်လိုပါလဲ ဆရာ"

"ဒီလိုပါ။ ဒီဝိပဿနာအလုပ်ဟာ ဗုဒ္ဓလမ်းစဉ်ဖြစ်တဲ့အတွက် ဒီကျင့်စဉ်ကို ကျင့်သူဟာ ဗုဒ္ဓဘာသာဝင်ပဲဖြစ်ရမယ်ဆိုတဲ့ သဘောထားက တစ်မျိုးပါ။ ဗုဒ္ဓဘာသာဝင်ဆိုတဲ့ အမည်ကို ယူယူမယူယူ ဒီကျင့်စဉ်ကို ကျင့်လို့ရပါတယ်။ ဘယ် ဘာသာဝင်ပဲဖြစ်ဖြစ် ဒီကျင့်စဉ်ကို ကျင့်ယင် ဒီဝိပဿနာကျင့်စဉ်ရဲ့ အကျိုးကျေးဇူးကိုတော့ ရမှာပါပဲလို့ဆိုတဲ့ အယူအဆကတစ်မျိုးပါ"

"ဆရာတို့ကတော့ ဘယ်ဟာကို သဘောကျပါသလဲဆရာ"

"ဒီနှစ်ခုဟာ တကယ်တော့ အတော်အပြောရခက်တဲ့ကိစ္စပါ။ ပညတ်နယ်က အခေါ်အဝေါ်တွေဟာ ဒီကိစ္စထဲမှာ အတော်ကလေးဝင်နေတော့ ပညတ်တွေကိုဖယ်ပြီး ပြောနိုင်ရင် ဒီနှစ်ခုဟာ အတူတူပဲလို့ ဆိုရမှာပါပဲ"

"ရှင်းပါဦးဆရာ"

"ပညတ်ဆိုတာကတော့ အမည်နာမနဲ့ သတ်မှတ်ပြီး ခေါ်ဝေါ်ပြောဆိုဖို့အတွက် နာမည်တွေဆိုပါတော့။ ခင်ဗျားတို့လည်းသိပါတယ်။ ဒီတော့ ဒီ'ဗုဒ္ဓဘာသာ'လို့ ခေါ်ဝေါ်ပြီး သုံးစွဲနေကြတဲ့စကားဟာ ပညတ်ပါပဲ။ ဒီပညတ်ဟာလည်း ဘုရားကိုယ်တိုင် မိန့်တော်မူခဲ့တဲ့ ပညတ်တောင် မဟုတ်ပါဘူး။ ဘုရားဟောတော်မူခဲ့တဲ့ ပညတ်က 'သာသနာ'ဖြစ်ပါတယ်။ 'သာသနာ'ဆိုတာကလည်း အဆုံးအမလို့ အဓိပ္ပာယ်ရပါတယ်။ ဘုရားသာသနာဆိုတာ ဘုရားအဆုံးအမပေါ့ပဲ"

"ဪ...ဟုတ်ကဲ့။ အဲဒီလို ဗုဒ္ဓရဲ့ အဆုံးအမအတိုင်း ကျင့်ကြံနေထိုင်တဲ့ ပုဂ္ဂိုလ်များကို ဗုဒ္ဓသာသာဝင်များရယ်လို့ ယေဘုယျအားဖြင့် ခေါ်ကြတာပါပဲ။ ဗုဒ္ဓဘာသာဝင်အစစ်ဆိုတာကတော့ အရိယာဂိုဏ်းဝင် အောက်ဆုံးသောတာပန်ဖြစ်မှလို့ အဆိုရှိပါတယ်။ ဟုတ်လားဆရာ"

"ဟုတ်ပါတယ်။ သို့ပေမယ့် အခုကျွန်တော်တို့ ဗုဒ္ဓဘာသာဝင်အစစ်ပါလို့ ခေါ်နေကြတာကတော့ ပုထုဇဉ်နယ်က ပညတ်တစ်မျိုးပါ။ အရိယာသံဃာ မဖြစ်သေးတောင် ကောင်းသောအကျင့်ကို ကျင့်နေသူ၊ ဉာဏ်ပညာကြီးမှုကို ရှေးရှုကျင့်နေသူ၊ တရားလမ်းကြောင်းအတိုင်း ဖြောင့်မတ်မှန်ကန်စွာ ကျင့်နေသူ၊ တရားရှိသူ ဘုရားတပည့်သား သံဃာဆိုတာထဲမှာ အချို့ဆရာများက သမုတိ သံဃာများကိုပါ ထည့်မှတ်ကြပါတယ်။ တကယ့်တကယ်ဆိုရင် ပုထုဇဉ်ဟာ အရိယာများလို ဂတိမမြဲကြသေးပါဘူး"

"ဂတိမြဲတယ်ဆိုတာ ရှင်းပါဦးဆရာ"

"ဗုဒ္ဓ ဓမ္မ သံဃာဆိုတဲ့ ရတနာသုံးပါးဆိုတာရှိတယ်၊ ဗုဒ္ဓလမ်းစဉ်ဟာ မှန်ကန်တယ်ဆိုတာကို မမှိတ်မသုံ၊ မတွေမဝေယုံကြည်သူများက မိမိကိုယ်တိုင် သိထားပြီးသားအမှန်အရှိကို မမှန်ဘူး မရှိဘူးလို့

ဘယ်သူက လာပြောပြော မယုံတော့ဘူး။ လက်မခံတော့ဘူး။ အကျဉ်းအကြပ်ကျလို့ သေဘေးနဲ့ရင်ဆိုင်နေရသည့်တိုင်အောင် မိမိကိုယ်တိုင် သိရှိထားပြီး အမှန်အရှိကို မမှန်ဘူး မရှိဘူးများဖြစ်လေမည်လား ဆိုတဲ့ သံသယလည်းမရှိတော့ဘူး။ အမှန်အရှိကို ကိုယ်တိုင်သိထားပြီးမှတော့ ဒါကို အခြားနည်းမမြင်တော့ဘူးဆိုပါတော့။ အခြားနည်းများ ဖြစ်လေမည်လားလို့ သံသယမရှိတော့တဲ့အတွက် သူ့ယုံကြည်ချက်ဟာ ခိုင်မြဲတယ်။ သေချာတယ်ဆိုပါတော့။ အစာနဲ့အဆိပ်ခွဲခြားသိထားတဲ့လူဟာ အဆိပ်ကိုတော့ ဘယ်တော့မှ မစားသုံးတော့သလို အပါယ်ဘုံကိုသွားမည့် (အကုသိုလ်)အမှုမျိုးကို သူဟာ စေတနာနှင့်တကွ ဘယ်တော့မှမလုပ်တော့ဘူး"

"အသက်ကို အသေခံပြီး အကုသိုလ်ကို ရှောင်တယ်ဆိုရာမှာ အကျဉ်းအကြပ်ကျရင် အကုသိုလ်အလုပ်မျိုး မလုပ်မိပေဘူးလားဆရာ။ မြန်မာရာဇဝင်မှာ ဘုရင်တစ်ပါးကျွန်တော်ကောင်းကောင်းတော့ မမှတ်မိဘူး။ သူ့ကိုလုပ်ကြံသူက အဆိပ်ခတ်ထားတဲ့ အစာကို စားရင်စား၊မစားရင် ဓားနဲ့သတ်မယ်ဆိုတာမျိုးကြုံရင် ဓားကိုကြောက်တော့ အဆိပ်ကိုပဲ စားရတာမျိုး မရှိပေဘူးလစ်း ဆရာ"

"အရိယာပုဂ္ဂိုလ်များမှာတော့ မရှိဘူးလို့ဆိုရမယ်။ အရိယာများဟာ သေခြင်းရဲ့သဘောတရားကို သိမြင်နားလည်ကြတယ်၊ အဖန်ဖန်အထပ်ထပ် သေနေကြရတယ်ဆိုတာကိုလည်းသိမြင်နားလည်ကြတယ်။ သေရတာချင်းတူရင် အကုသိုလ်နဲ့ သေရတာနဲ့ အကုသိုလ်မပါဘဲ သေရတာ ဘယ်လောက်ကွာခြားတယ်ဆိုတာကိုလည်း သိမြင်နားလည်နေကြတယ်။ အဲသလို သိမြင်နားလည်သူများမှာ အဆိပ်ကိုကြောက်တယ် ဓားကိုကြောက်တယ်ဆိုတာမျိုးမရှိပါဘူး။ အကုသိုလ်ကိုတော့ လွတ်အောင်ရှောင်ကြမြဲပါပဲ"

"အင်မတန်နက်နဲတဲ့ ကိစ္စပဲဆရာ။ ဒါထက် ခုနက ဆရာပြောတဲ့ ပညတ်ကိုဖယ်ပြီးပြောရင် ဒီနှစ်ခုဟာ အတူတူပဲဆိုတာကို ပြောပြပါဦး ဆရာ"

"ဗုဒ္ဓဘာသာဝင်လို့ ဆိုတဲ့စကားက ပညတ်။ သူ့ရဲ့ပရမတ် သဘောအဓိပ္ပာယ်က ဘာလဲဆိုတော့ 'ဗုဒ္ဓ အဆုံးအမ၌ တည်သူလို့ပဲဖြစ်ပါတယ်၊ ဒီတော့ ဗုဒ္ဓဘာသာဝင်ဆိုတဲ့ နာမပညတ်ကို ဖယ်လိုက်ရင် ဗုဒ္ဓ အဆုံးအမ၌တည်သူဆိုတဲ့ အဓိပ္ပာယ်သဘောကို တွေ့ရမယ်။ ဗုဒ္ဓအဆုံးအမ၌တည်သူဆိုတာကကော ဘယ်လိုပုဂ္ဂိုလ်လဲ၊ ဘုရားဟောခဲ့တဲ့တရားကို ကျင့်ကြံအားထုတ်သူလို့ ဖွင့်ရပါလိမ့်မယ်။ 'ဗုဒ္ဓဘာသာ' ဆိုတာဟာလဲ တစ်စုံတစ်ယောက်က ထူထောင်ဖွဲ့စည်းထားခဲ့တဲ့ အဖွဲ့အစည်း ဂိုဏ်း ဂဏ တစ်ခုမဟုတ်ပါဘူး။ ဗုဒ္ဓဆိုတဲ့ သဗ္ဗညုတ ဘုရားရယ်၊ ဗုဒ္ဓဟောတဲ့ တရားရယ်၊ ဗုဒ္ဓကျင့်စဉ်အတိုင်း ကျင့်ကြံအားထုတ်လို့ ဗုဒ္ဓသိသော မြင်သောတရားများကို သိကြတဲ့တပည့်သား သံဃာရယ်၊ ဒါပဲရှိပါတယ်"

"ဗုဒ္ဓ အဆုံးအမမှာတည်တယ်ဆိုတာက ဘယ်လိုပုဂ္ဂိုလ်မျိုးပါလဲဆရာ။ ဘုရားရယ်၊ တရားရယ်၊ သံဃာရယ် ဒါပဲရှိတယ်ဆိုတော့လူပုဂ္ဂိုလ်တွေမှာကော ဗုဒ္ဓအဆုံးအမမှာ တည်သူမရှိဘူးလို့ ဆိုရမှာလားဆရာ"

"ဒီလိုမဟုတ်ဘူး။ ဘုရားရဲ့သာဝကဆိုတာ ရဟန်းချည်းမဟုတ်ဖူး၊ လူဝတ်ကြောင်များလည်းရှိတယ်"

သံဃာဆိုတာ ရဟန်းတော်များကို ခေါ်တာ ခဟုတ်လားဆရာ"

"သံဃာဆိုတာ 'အပေါင်း'ကို ခေါ်တာပါ။ဘုရားအဆုံးအမမှာ တည်ပြီးသူအပေါင်းဟာ သံဃာပါပဲ။ ရဟန်းအပေါင်း လူအပေါင်း၊ ဗရိသတ်၊ သံဃာလို့ အနက်ပေးပါတယ်။ ရဟန်းတော်များကို ရည်ညွှန်းတဲ့အခါ "ဘိက္ခုသံဃာ"လို့ ပြောလေ့ရှိပါတယ်"

"ကျွန်တော်တို့လူတွေ နေ့စဉ် ရည်ညွှန်းပြောနေကြတဲ့'သံဃာ'ဆိုတာကတော့ ရဟန်းပဲ"

"ဟုတ်တယ်။ အဲ....ဒါနဲ့ ခုနက ပြောတဲ့ ရတနာသုံးပါးကို ကိုးကွယ်ရာအဖြစ် ဆည်းကပ်တဲ့အခါ အရှိအသေ အလေးအမြတ်အဖြစ် ပူဇော် ကန်တော့တဲ့ အပိုင်းကတစ်မျိုး၊ ဗုဒ္ဓဟောတော်မူခဲ့တဲ့ တရားဓမ္မများကို ကျက်မှတ်သင်အံပြီး လေ့လာတာကတစ်မျိုး၊ ဗုဒ္ဓအဆုံးအမအတိုင်း ဝိပဿနာတရားကို ပွားများအားထုတ်တာကတစ်မျိုး၊ သုံးမျိုးခွဲကြည့်ရပါမယ်"

"ပြောပြပါဦးဆရာ"

"ပူဇော်ကန်တော့တဲ့ အပိုင်းကတော့ ခပ်လွယ်လွယ် ပြောရရင် ဘုရားတရားသံဃာ ရတနာသုံးပါးကို အရိုအသေအလေးအမြတ် လက်စုံမိုးပြီး ရှိခိုးကန်တော့တဲ့အပိုင်း၊ ဒါကအများစုဖြစ်တဲ့ ဗုဒ္ဓဘာသာဝင်ဆိုတဲ့လူများ ဘုရားကြည်ညိုတဲ့အမှု၊ ဘုရား

ရှိနိုးတဲ့အမှုပါ။ **Devotiontal Practice** ဆိုပါတော့။ ဗုဒ္ဓါနုဿတိ၊ ဓမ္မာနုဿတိ၊ သံဃာနုဿတိ အစရှိတဲ့ အနုဿတိ ဘာဝနာနဲ့ ကောင်းရာမွန်ရာကို ရောက်အောင်ကျင့်ကြံပြီး စိတ်ကိုတဖြည်းဖြည်း စင်ကြယ်စေတဲ့ လမ်းစဉ်ပါ။ နောက်တစ်မျိုးက ပရိယတ္တိကို ဆည်းပူးလေ့လာပြီး ဘုရားဟောခဲ့တဲ့ တရားတွေရဲ့ သဘောအဓိပ္ပာယ်ကို သိအောင်အားထုတ်တဲ့ လမ်းစဉ်ပါ။ သူ့ကိုတော့ **Intellectual Practice** ဆိုပါစို့။ ဗုဒ္ဓဟောကြားညွှန်ပြတဲ့ တရားဒေသနာတွေကို စာတတ်ပေတတ်တို့ ချဉ်းကပ်နည်းနဲ့ ချဉ်းကပ်ခြင်းပါ။ ဒီလိုကျင့်စဉ်တွေနဲ့ ဗုဒ္ဓ အလိုတော်ကို သိမြင်အောင် အားထုတ်တာထက် ကိုယ်တိုင် ဗုဒ္ဓကျင့်စဉ်ကိုလိုက်ပြီး ဝိပဿနာဘာဝနာ အားထုတ်တာက လက်တွေ့ကျတယ်လို့ ဆိုပါတယ်။ တွေးတောကြံစည်ပြီး သိတာမဟုတ်ဘူး။ တွေ့စရာရှိ ကိုယ်တိုင်တွေ့တဲ့ လမ်းစဉ် **Experiencial Practice** ဆိုပါတော့"

သတ္တဝါအလိုက် စရိုက်နဲ့အညီ ကျင့်ကြံရတဲ့ ဗုဒ္ဓလမ်းစဉ်တွေမေါ့၊ ဟုတ်လား။ ဒါပေမယ့် တစ်ခုနဲ့ တစ်ခုဟာ လက်တွေ့မှာ ခရီးရောက်ပုံချင်းတော့ မတူဘူးထင်တယ်နော် ဆရာ"

"ဟုတ်ကဲ့ သတ္တဝါအလိုက် စရိုက်နဲ့အညီဆိုရမှာ ပါရမီကလည်း ရှိလိမ့်ဦးမယ်ပေါ့။ ပါရမီဆိုတာကလည်း မြင်ကောင်းတဲ့မျိုး မဟုတ်တော့ ဘယ်ဟာက ဘယ်လောက် ခရီးရောက်လွယ်တယ်ဆိုတာ ပြောဖို့ခက်ပါတယ်။ မြတ်စွာဘုရား အလိုတော်ကတော့ ဘုရားကြည်ညိုတာထက်၊ တရားစာပေတွေ လေ့လာတာထက်၊ ဘုရားဟောတဲ့ လမ်းစဉ်အတိုင်း လက်တွေ့လေ့ကျင့်မှသာ ခရီးရောက်နိုင်တယ် လို့ ဆိုတယ်။ သံယုတ္တနိကာယ်၊ ခန္ဓဝဂ္ဂ၊ ဝက္ကလိသုတ်မှာဘုရားကို သိပ်ကြည်ညိုပြီး ဘုရားနဲ့ ကင်းကွာတဲ့နေရာကိုရောက်နေရလို့ ကိုယ်ရောစိတ်ပါ ပင်ပန်းနေတဲ့ ဝက္ကလိရဟန်းကို "ချစ်သား ဝက္ကလိ၊ ဤကိုယ်ပုပ်ကို ရှုကြည့်နေသဖြင့် သင်ချစ်သား၏ အဖို့ရာ အဘယ်အကျိုးရှိအံ့နည်း။ အကျိုးမရှိသည်သာ ချစ်သားဝက္ကလိ၊ စင်စစ်အကြင်သူသည် တရားကိုမြင်၏၊ ထိုသူသည် ငါဘုရားကို မြင်သူဖြစ်၏" လို့ ဟောတော်မူပြီး တရားသဘောဖြစ်တဲ့ အနိစ္စလက္ခဏာ ဒုက္ခလက္ခဏာတို့ကို ထင်မြင်စေမှ ဝက္ကလိရဟန်းဟာ ပဋိသမ္ဘိဒါပတ္တအရဟန္တာ ဖြစ်တယ်လို့ဆိုပါတယ်"

"ဒီတော့ တရားမှန်ကို သိမြင်ဖို့ဆိုရင် ဝိပဿနာတရားကိုပဲ အားထုတ်ဖို့လိုတယ်လို့ ဆိုရမှာပေါ့။ ဟုတ်လားဆရာ"

"ဟုတ်ပါတယ်။ ဆိုလိုတာကတော့ ဘုရားတိုင်ကြည်ညိုနေရုံနဲ့ လိုရာခရီးမရောက်နိုင်ဘူး။ ဘုရားဟောတရားတွေ နှုတ်ငုံဆောင်ထားရုံနဲ့လည်း လိုရာခရီးမရောက်နိုင်ဘူး။ ခရီးရောက်ချင်ရင်တော့ ဘုရားကျင့်စဉ်ဖြစ်တဲ့ ဝိပဿနာတရားကို အားထုတ်ရလိမ့်မယ်လို့ ဖြစ်ပါတယ်။ ဒီတော့ ကမ္ဘာအနှံ့ သာသနာပြန့်ပွားစေချင်တယ်ဆိုရင် ဗုဒ္ဓဝင်ကို ဟောတာထက်၊ ပိဋကသုံးပုံကို ဟောပြောနေတာထက်၊ ဝိပဿနာဘာဝနာကို ဘုရားဟောတဲ့နည်းအတိုင်း ဖြန့်ဖြူးဖို့လဲ လိုပါလိမ့်မယ်။ ဗုဒ္ဓဝင်တို့ ပိဋကစာပေတို့ကိုလည်း တစ်ဖက်က ကမ္ဘာသုံးစာပေနဲ့ သာသာပြန်ထုတ်ဝေပြီး ဖြန့်ဖြူးသလို တစ်ဖက်ကလည်း ဒီဝိပဿနာကို နည်းမှန်လမ်းမှန် ဖြန့်ဖြူးဖို့ လိုပါတယ်။ သာသနာပြု ပုဂ္ဂိုလ်များဟာ ကမ္ဘာသုံးစကားကို နိုင်နင်းကျွမ်းကျင်အောင် လေ့လာလိုက်စားဖို့လည်း လိုပါလိမ့်မယ်။ ပြီးတော့ ကမ္ဘာအရပ်ရပ်က ဝိပဿနာဘာဝနာလုပ်ဆောင်နေကြတဲ့ ပုဂ္ဂိုလ်တွေဟာ မိမိတို့ရဲ့ အတွေ့အကြုံများကို အခါအားလျော်စွာ တွေ့ဆုံဆွေးနွေးပြီး နှီးနှောဖလှယ်မှုတွေကို ပြုသင့်ကြပါတယ်။ ဓမ္မသာကစ္ဆာ မင်္ဂလာပေါ့"

"ကောင်းတာပေါ့ဆရာ။ ဆရာတို့ ဓမ္မဂီရိမှာ သွားတက်တဲ့ နိုင်ငံတကာ ဝိပဿနာ နှီးနှောဖလှယ်ပွဲဟာ အဲဒါမျိုးပေါ့နော်"

"ဟုတ်တယ်။ အဲဒီနှီးနှောဖလှယ်ပွဲရဲ့ အကျိုးကျေးဇူးဟာ အင်မတန်ကြီးပါတယ်။ မျှော်မှန်းချက်ကလည်း ကြီးမားပါတယ်။ နိုင်ငံရေးလုံးဝ မစွက်ဖက်တဲ့ ကမ္ဘာ့ငြိမ်းချမ်းရေးလမ်းစဉ် ဖြစ်ပါတယ်။ နိုင်ငံတိုင်းမှာ အဲဒီလို နှီးနှောဖလှယ်ပွဲတွေ ဖြစ်မြောက်အောင် လုပ်နိုင်ကြရင် ကမ္ဘာသူကမ္ဘာသား ယခုထက် သာယာချမ်းမြေ့တဲ့ လောကကို ထူထောင်နိုင်ကြဖို့ မျှော်လင့်ချက်ပါပဲ"

ထင်လင်း



# ပရစေတနာ

## နုယဉ်

'အလှူဒါနပြုလုပ်ရာ၌ ပုဗ္ဗ၊ မုဉ္စ၊ ပရစေတနာ သုံးတန် ပြည့်စုံမှသာလျှင် ပြုလုပ်ရကျိုး နပ်မည်၊ ကုသိုလ်ဖြစ်မည်'ဟု ဆိုပါသည်။ မလှူမီ ဖြစ်ရောက်လာသော ပုဗ္ဗစေတနာ၊လှူစဉ် ဖြစ်ရှိနေသော ကြည်နူးရည်သန်စိတ် မုဉ္စစေတနာ၊ လှူပြီးနောက် ဖြစ်ပေါ်နေသော ပရစေတနာဟူ၍ စေတနာသုံးတန် ရှိသည့်အနက် လှူပြီးနောက် ဖြစ်ပေါ်နေသော ပရစေတနာသည် ပိုမို၍ အကျိုးသက်ရောက်မှု ရှိသည်ဟု ထင်ပါသည်။ မလှူခင်နှင့် လှူနေဆဲ စိတ်စေတနာကို ပျောက်ကွယ်မသွားဘဲ မိမိ လှူခဲ့ရသည့် ကောင်းမှုသည် စိတ်အာရုံထဲတွင် မကြာမကြာ ပေါ်လာကာ စေတနာအသစ် ဖြစ်နေရခြင်းနှင့် လှူဆဲအခါက စိတ်စေတနာ အလားတူ ကုသိုလ်စိတ် ပွားများနေခြင်းပင် ဖြစ်ပေသည်။

လှူစဉ်က ဖြစ်ရှိနေခဲ့သော ဝမ်းသာ ကြည်နူးခြင်း ပီတိစိတ်နှင့်အတူ မိမိ ရည်သန်ရာ နိဗ္ဗာန်ဆုအတ္တဟိတနှင့် သူတကာအကျိုး ပရဟိတအတွက် မပျောက်မပျက် တသက်လုံး ကြည်နူးနေရမည်သာ ဖြစ်နေသည်။

ဤသို့ ဒါန ပြုပြီးနောက် စေတနာသုံးတန်အနက် တတိယ စေတနာ ဖြစ်ရှိနေရသောကြောင့် တွေးမိတိုင်း ကြည်နူးရာ ယနေ့တိုင် မမေ့နိုင်သော ဒါနမှုတစ်ခုကို မိမိကိုယ်တိုင် ခံစားနေရသော ဒါနအကြောင်းရပ်များစွာအနက်မှ အကြောင်းတစ်ရပ်ကို အလျဉ်းသင့်သဖြင့် ဖော်ပြလိုပေသည်။

* * *

တစ်ဆယ့်ငါးနှစ် တိုင်ခဲ့လေပြီ။

၁၉၇၆-ခုနှစ်က ကျွန်မတို့ မိသားစုသည် ပဲခူးမြို့သို့ ဘုရားဖူးရန် ကားဖြင့် ထွက်ခဲ့ကြသည်။ ပဲခူးမြို့သို့အဝင် သုံးမိုင်ခန့် အလို၌ ကားလမ်း လက်ဝဲဘက်ဘေးတွင် စာတန်းမှတ်တိုင် တစ်တိုင်ကို မြင်တွေ့ကြရသည်။ 'နရဏီသိမ်တော်သို့'ဟု ရေးထားသောကြောင့် အတွင်းဘက် အဝင်ဝရှိရာ လမ်းသို့ မျော်

ကြည့်လိုက်ရာ ဥယျာဉ်ခြံမြေများ ဆက်စပ်လျက်ရှိနေသော 'စာလေးကွင်း ရွာငယ်'ကို တွေ့ရသည်။

ကျွန်မတို့သည် နာရဏီ သိမ်တော်ဟု ကြားဖူးကြားသိရသဖြင့် ပဲခူးသို့ ဆက်မသွားသေးဘဲ စာလေးကွင်းရွာထဲသို့ ဝင်ခဲ့ကြသည်။

ကားသည် ဖာလုံဝက်မျှ ရွာတွင်းသို့ဝင်မိလျှင် စမ်းချောင်းကို ဖြတ်ကူးထားသော သစ်သား တံတားငယ် တစ်ခုကို တွေ့ရသည်။ ကားဖြတ်ကူး၍ မရ။ လုပ်လဲ လုပ်လီမျှ ရှိနေသော ထို တံတားငယ်မှ ကျွန်မတို့ မိသားစုတစ်ယောက်ချင်း စီ၍ လျှောက်ကာ ရှေ့သို့ ဆက်လာခဲ့ကြရလေသည်။

ရှေ့သို့ လာရာတွင် 'နာရဏီ သိမ်တော်သို့'ဟု စာတန်းတိုင်ကို တွေ့ရရာ ထို လမ်းငယ်မှ အတွင်းသို့ တန်းလျက် ဝင်သွားကြရာ တောရ ကျောင်းလေး တစ်ကျောင်းကို တွေ့ရသည်။ ပိန္နဲ၊ မရမ်း၊ သရက်၊ ခညင်းပင်ကြီးများ အုပ်ဆိုင်းနေသော သဲ ပရဝုဏ်တွင် အတန်ငယ် ဟောင်းနေသော သစ်သားကျောင်းလေး တစ်ကျောင်းနှင့် ကျောင်းထိုင် ဆရာတော် အရှင်သုန္ဒရနှင့် ကိုရင်ငယ်များကို ဖူးတွေ့ကြရသည်။

ဆရာတော် ဘုန်းတော်ကြီးက နာရဏီ သိမ်တော်ကို ရှင်းလင်း ပြုပြင်နေရကြောင်းများကို ရှင်းလင်းပြောပြသည်။

ဟံသာဝတီဘုရင် ဓမ္မစေတီမင်းသည် ၁။ ကလျာဏီသိမ်၊ ၂။ နာရဏီသိမ်၊ ၃။ နာဂဝံသိမ်၊ ၄။ နိဗ္ဗာန်ကလိုင်သိမ်ဟူ၍ သိမ်လေး သိမ်သမုတ်တော်မူခဲ့ရာ ကလျာဏီသိမ်ကိုသာလူသိများ၍စည်းကားလျက်ရှိနေသည်။ ပဲခူးမြို့တွင်း ဖြစ်၍သာသနာပြန့်ပွားလျက်ရှိနေသည်။

ယခု နာရဏီသိမ် ကုန်းတော်ကို အမှီပြု၍ ဆရာတော် သီတင်းသုံးနေသည်မှာ ကြာပေပြီ။

ဆရာတော်က နာရဏီသိမ်ကုန်းရှိရာသို့ ကိုယ်တိုင် လိုက်လံ၍ ရှင်းလင်းပြသသည်။ သိမ်ကုန်း ပတ်လည်တွင် စိုက်ထူထားသော သိမ်တိုင်ကြီးများမှာ လုံးပတ် လူ တစ် ဖက် မျှ အမြင့်လူတစ်ရပ်မျှ ရှိသော ကျောက်တိုင်ကြီးများဖြစ်၍ နှစ်ပေါင်း ငါးရာကျော်က ရှေးမင်းမြတ်တို့၏ ကုသိုလ်တော်ကို ထူးဆန်းစွာဖူးတွေ့ကြရသည်။ သိမ်တော်ကုန်း တစ်ဖက်တွင်ချောင်းစတ် ခွေ ကာ ကြည် လင် သော စမ်းရေ စီးဆင်းနေသည်။ စမ်းချောင်းရှိရာမှ လှမ်းမျှော်ကြည့်လျှင် သိမ်တော်ရှိ ဘုရားစေတီများ ပြုပြင်ရန်အတွက် အုတ်ဖုတ်နေသော ရွာအလုပ်သမားများကို လှမ်းမြင်ရသည်။

သိမ် တော် ကုန်း တစ်ဝိုက်မှာ စိမ့်မြိုင် တူထပ်၍ နေပြောက်ဇင် မထိုးနိုင်အောင် အေးမြနေသည်။ ပေါ်လာသော စေတီဟောင်းကြီးငယ်တို့မှာဝင် ဆိတ်ငြိမ်သော ထိုတောအုပ်ထဲမှာ ထီးတော်မရှိ ထီးထီးမျှပင် ရပ်တည်လျက်ရှိနေကြသည်။ သိမ်တော်၏ ကုန်းတစ်ဘက် ကျောင်းနှင့် မလှမ်းမကမ်း မြေပြန့်တွင် စေတီတော်ကြီး တစ်ဆူကို ပြုပြင်တာ ထီးတော်တင်ရန်အသင့်။ စေတီတော်ကြီးပတ်လည်တွင်တား တရားအားထုတ်ရန် အုတ်ဂူ အခန်းငယ်များပါ ထပ်မံဆောက်တည်လျက် ရှိနေသည်ကို ဖူးတွေ့ရရာ ကျွန်မတို့သည် ငေးမော ဖူးမျှော်ရင်း ရှေး မင်းမြတ် တစ်ပါးက သာသနာပြု တည်ခဲ့ပြီး နယ်ချဲ့ခေတ် ရောက်ခါမှ ထိုနေရာတစ်ဝိုက်မှာ တိမ်ကော ပျောက်ကွယ်ခဲ့ရသည်တို့ကို မေ့မော တွေးတောနေမိလေသည်။

လိုက်လံပြသ ပြောပြနေသော ဆရာတော် အရှင်သုန္ဒရက 'ခုလို နွေအခါမှာ ဆိုရင်တော့ ဘုရားဟောင်းတွေကို ပြုပြင်ဖို့နှင့် သိမ်တော်ကို ပြုပြင်ဖို့ရာ ဆောက်လုပ်ရေးပစ္စည်းတွေ သယ်ယူဖို့ စာလေးကွင်းရွာ တံတားဘေးက ရေနည်းရာမှာ လမ်းဖြစ်အောင်ဖြတ်ပြီး ကားတို့ လှည်းတို့ ကူးဖို့ ကြံဖန်ပြီး လုပ်နေရတာပဲ။ မိုးရွာလာပြီဆိုရင်တော့လဲ ဒီလိုပြုပြင်ရေးလုပ်ငန်းတွေ ရပ်ဆိုင်းထားရတော့တာပါပဲ။ စမ်းချောင်းကို ဖြတ်ကူးတဲ့ တံတားသာ ခိုင်ခံ့မယ်ဆိုရင်တော့ ရာသီမရွေး သိမ်တော်ကို တဖြည်းဖြည်း ပြုပြင်နိုင်မှာပါပဲ။ ခုလို ရဲမှူးကြီးတို့က ကမကထပြုပြီး နာရဏီသိမ် ပြန်လည်ဖော်ထုတ်နေတာကို သိကြရတော့ ပါဝင်ကြတဲ့ အလှူရှင်တွေလည်း မနည်းပါဘူး။ ရန်ကုန်မြို့ထဲက ဆရာဝန်မကြီးနှင့် မိတ်ဆွေတကာမတို့နှစ်ယောက်က မကြာခင် စေတီအသစ်တစ်ဆူ တည်ကြတော့မှာ။ မိုးကျလာမှာကိုပဲ စိုးရိမ်နေကြရတယ်'ဟု ရှင်းလင်း ပြောပြနေသောအခါ ကျွန်မတို့ ဖြတ်လျှောက်လာခဲ့ကြသည့် စမ်းချောင်းကူး တံတားလေးကို ခိုင်ခံ့သော တံတားကြီး တစ်ခုအဖြစ် မြင်လိုသော ဆန္ဒဖြစ်ပေါ်လာရလေတော့သည်။

'နရဏီ သိမ်အတွက်ဆိုရင်တော့ ပြုပြင်ရေးမှာ ဒီ တံတားဟာ အဓိကအချက်ပဲ ဆိုပါတော့။ လမ်းကူး ဆက် သွယ် မှုသာ မပြတ်ရင် အလှူရှင်တွေလဲ ဒီကို မကြာမကြာ လာနိုင်ကြမှာပဲ။ စေတနာပေါ်တိုင်း လှူလည်း လှူကြမှာပါပဲ။ ဒီနေရာ တစ်ဝိုက်က ပဲခူး ကားလမ်းကြီးနှင့် ငါးဖာလို ကွာနေလို့ တံတားသာ ကောင်းရင် သွားလာရေး လွယ်ကူပြီး နာရဏီသိမ် ပြုပြင်ရေးအတွက် သိပ် အဆင်ပြေမှာ။ စာလေးကွင်း ရွာအတွက်ဆိုရင်လည်း ရာသီမရွေး လှည်းကူးလို့ရမှာမို့ ယာလုပ်ငန်း အဆင်ပြေနိုင်မှာပဲ။ တံတားအတွက် ပြုပြင်ခည့်သူဆိုတာလဲ မမျှော်လင့်နိုင်ပါဘူး။ တော်တော့ အင်အားနှင့် ပြုပြင်လို့ ရမယ်လည်း မထင်ပါဘူး။'

ကျွန်မတို့ဆရာတော် ပြောပြသည်တို့ကို နာယူကြပြီး၊ ပြုပြင်ဆဲ နာရဏီသိမ် အခြေအနေကို လှမ်းမျှော်လှည့်ပတ်ကာ ကြည့်ရှုကြပြီး ပဲခူးသို့ ခရီးဆက်ခဲ့ကြလေသည်။

ထိုနေ့မှာ စာကလေးကွင်းရွာရှိ စမ်းချောင်းကို ဖြတ်ကူးထားသော တံတားကို အသစ် တည်ဆောက်ရန်ပုဗ္ဗစေတနာပေါ်ခဲ့ရသောနေ့ ဖြစ်ပေသည်။ 'စမ်းကူးတံတားသာ ခိုင်ခံ့ရင် နာရဏီသိမ်လဲ ပြန်လည်စည်ကားပြီး အနီးအနားတစ်ဝိုက်မှာ သာသနာရေး ကောင်း လာမှာ ပဲ။ ဒီ တံတားကို အသစ် တည်ဆောက်ဖို့ ကြိုးစားကြမယ်'ဟု ကျွန်မတို့ ဆုံးဖြတ်ပြီးနောက် နာရဏီသိမ်ကုန်းသို့ နောက်တစ်ခေါက်သွားခဲ့ကြပြန်ပါသည်။

ထို တစ်ခေါက်တွင်မူ ပဲခူးမြို့ရှိ သာသနာရေး ဘာသာရေး ကြည်ညိုကြသူ လူကြီး လူကောင်း အရေးပါသူများနှင့် ဘုရားသုံးဆူရွာမှ ဘုရားပြုပြင်ရာတွင် ပါဝင်နေသူ လူကြီး သုံးလေးယောက်ကို ဖိတ်ကြားပြီး စမ်းကူးတံတားကြီးအတွက် အသစ် တည်ဆောက်ဖို့ အစည်းအဝေး လုပ်ဖြစ်သည်။

တံတားကို ထုထည် ခိုင်ခံ့စွာ အနှစ်ငါးဆယ်ကြာ ခိုင်ခံ့အောင် တည်ဆောက်ဖို့၊ လှည်းကူး ကားကူး ရေရှည် ခံနိုင်ဖို့ရာ အင်ဂျင်နီယာက တွက်ချက်ရာ ကျပ်ငွေ တစ်သောင်း ကုန်ကျမည်ဟု အဖြေ ထွက်လာပါသည်။

ကျွန်မတို့သည် နရဏီ သိမ်တော်ကို ပြုပြင်နေကြသူ အ ပေါင်း အား လေး စား ယုံကြည်ကြသည့်အလျောက် ဤ တံတားသာ အသစ် တည်ဆောက်လိုက်ရလျှင် နရဏီသို့ ရောက်လာသူများ အလှူပါဝင်သူများရှိလာကာ ယခုထက် အမြန် စည်ကားတော့မည်ဟု စေတနာပေါ်လာသည့်အလျောက် ပိုက်လုံးခံ၊ ကွန်ကရစ်၊ အုတ်ပတ်ကား အခြေခံဖြင့် အလှူငွေ တစ်သောင်း ရေစက်ချပြီး ဆောက်လုပ်ရာ တံတားမှာ မကြာခင် ပြီးစီးသွားခဲ့ပြီ ဖြစ်ပေသည်။

*　　*　　*

ကဆယ့်ငါးနှစ် ကျော်ခဲ့ပြီ။

ထိုအခါမှစ၍ စာလေးကွင်းရွာထဲမှ စမ်းချောင်းကို ဖြတ်ကူးထားသော အုတ်တံတားတွင် ဘုရားတည် ကျောင်းဆောက်ရန် သစ် ဝါး အုတ်ဘိလပ်မြေသယ်ယူခဲ့သာ ကားများ ရာသီမရွေး ယူဆောင်သယ်ပိုကာ ပြုပြင်ရေးကို အနှောင့်ခနေ့ ပြုလုပ်လာနိုင်သဖြင့်....

ယနေ့ တောပတ်လယ် အုပ်ဆိုင်းကာ စိမ်းညိုဆိတ်ငြိမ်လှစွာသော နရဏီ သိမ်တော်အနီး တစ်ဝိုက်တွင် ပြုပြင်ပြီး စေတီကြီးငယ်များ၊ စေတီသစ်များ၊ တရားအားထုတ်ရန် ရိပ်သာ အဆောက်အဦးများဖြင့် ရှေးကလို တောကြီးမျက်မည်း မဟုတ်တော့သော နရဏီသိမ်တော်အသစ် အခြေအနေကို တွေ့မြင်ရတိုင်း မိမိပြုခဲ့ရသော လမ်းပန်း ဆက်သွယ်ပေးမှု ကုသိုလ်အတွက် ဝရစေတနာသည် ယခုပြုနေရသည့်ကဲ့သို့ ကြည်နူးပီတိဖြစ်လျက် ရှိနေရပေသည်။ နှစ်ငါးဆယ် ကြာရှည်ခံ ရွာလမ်းကူး တံတားသည်လည်း အလှူရှင်၏ စေတနာကဲ့သို့ပင် မပျက်မစီးသေး ဘဲ ခိုင်ခံ့တည်တန့်လျက် နာရဏီအတွက် ကုသိုလ်ပြုလာသူများအဖို့ အထောက်အပံ့ ရရှိနေပေသည်။

လူ့ဘဝ ဆည်းဆာ အချိန်အခါသို့ ရောက်ရှိနေပြီဖြစ်သော ကျွန်ုပ်တို့အဖို့မှာလည်း ယနေ့ ဖြစ်ပေါ်ရှင်သန်နေဆဲ ပရစေတနာအကျိုးသည် ကျွန်မတို့ ကွယ်လွန်ရာသို့ တစ်ပါတည်းပင် လိုက်ပါလာလေမည်ဟုပင် မျှော်လင့် ယုံကြည်ရပါလျက်။ ။

နုယဉ်(၁၉၉၀)

(၃)



ဣလ္လဒမ္ဗိသံဃေ–အယံဝေသံဃော။ ဤသို့ သစ္စာလေး ရပ်။ ဟာရားမြတ်ကို၊ တပ်အပ်ဆင်ထင်၊ ဆတ်ဆတ်မြင်သော၊ အရှင်အရိယာ သောတာပန် သံဃာသည်သာ လျှင်။ပဏီတံ၊ ပဟာကိဥစ္စာရတနာတို့ထက်၊ သာလွန်မြင့်မြတ်သော။ ရတနံ၊ လောကီ၊ လောကုတ္တရာ၊ မွန်မြတ်စွာသော၊ မင်္ဂလာကြီးအစစ်၊ ရတနာတော်ကြီး ဖြစ်ပေ၏။

ဧတေန သစ္စေန၊ ဤသို့ ဟုတ်မှန်သောစကားကို ဆိုရသောကြောင့်။ ပါဏီနံ။သတ္တဝါအပေါင်းတို့အား သုဝတ္ထိ။ လောကီ လောကုတ္တရာ၊ မွန်မြတ်စွာသော၊ မင်္ဂလာ အစီး အပွားသည်၊ ဟောတု၊ ဖြစ်ပါစေ သံတည်း။''

''မောင်လှအေးရေ…ဒီအပိုဒ်ကို အကျဉ်းအားဖြင့် နားလည်ဖို့ကတော့ လွယ်ကူပါတယ်။ မြန်မာစကား ပြေနဲ့ပြောရရင် 'သောတာပန်ပုဂ္ဂိုလ်တို့ဟာ ကိုယ်ဖြင့်ဖြစ်စေ၊နှုတ်ဖြင့်ဖြစ်စေ၊ စိတ်ဖြင့်ဖြစ်စေ၊ မကောင်းသော ပြစ်မှုကို ကျူးလွန်မိစေဦးတော့ မိမိ အပြစ်ကို ဖုံးဝှက် ထိမ်ချန်ထားခြင်း မရှိကြပါဘူး….တဲ့။ မိမိ အပြစ်ကို မိမိပွင့်လင်းစွာဝန်ခံတောင်းပန်၍ ခွင့်လွှတ် ပြေလည်အောင် ဆောင်ရွက်ကြပါတယ်။ မဂ်ဉာဏ် ဖြင့် နိဗ္ဗာန်မြင်ပြီးသော အရိယာသောတာပန်တို့သည် မိမိပြုသော ပြစ်မှုကို မဖုံးကွယ်တတ်ကြောင်း ရှင်တော်ဘုရားကိုယ်တိုင် ဟောတော်မူပါတယ်။ ဒါကြောင့် သောတာပန် သံဃာတို့မှာ ဤ အဖိုးထိုက်တန်သော ဂုဏ်ရည်တို့ကြောင့် အမြတ်ဆုံးရတနာဖြစ်ပါတယ်။ ဤမှန်ကန်သော သစ္စာစကားကြောင့် သတ္တဝါများ ချမ်းသာကြပါစေသတည်းပေါ့။ မင်း နားလည်ပါ တယ်နော်၊''

''ဟုတ်ကဲ့ ဘဘ၊ စာထဲမှာ ပါသလောက်တော့ ကျွန်တော်နားလည်ပါတယ်။''

''အေး….မင်းအဖြေကို ငါကြိုက်သဟေ့၊ ဒါမှ သဘာဝကျတယ်၊ စာတပုဒ်ကို ဖတ်သည့်အခါဖြစ်စေ၊ တရားတပုဒ်ကို နာသည့်အခါဖြစ်စေ၊ စာထဲမှာပါသမျှ၊ ဟောကြားထားတာကို နာရသမျှ၊ အဲဒီလောက်သာ နားလည်ကြတာပေါ့။ ဒါက ပထမအဆင့် လို့ ပြောရမယ်၊ အဲဒီလောက် သာမန်သံရုံထက် 'အကျဉ်းမှ အကျယ်သို့' 'အလွယ်မှ အခက်သို့' ရောက်အောင် သိချင်လာပြီဆိုရင်တော့ မိမိကိုယ်တိုင် တွေးချင်တွေး ဆရာသမားများထံ မေးချင်မေး အဲသလို ဆည်းပူး ယူရတယ်။ မြတ်စွာဘုရားရဲ့ တရားတော်များဟာ 'ပညာရှိစကား၊ အပ်ဖျားရေစက်၊ အနက်ပင်လယ်' ဆိုသလို အလွန်ကရာနက်နဲ ကျယ်ဝန်းလွန်းလို့ ကျေးဇူးရှင်ဆရာတော်ကြီးများအဆက်ဆက်က အဋ္ဌကထာများ ဖွင့်ဆိုတော်မူခဲ့ကြရတယ်။ ဒါတောင် ဖွင့်လို့ ပြီးပြည့်စုံတယ်မရှိသေးပါဘူး တဲ့။ ဒါတွေကို တို့က လက်လှမ်းမီသမျှ လေ့လာကြရမှာဖြစ်တယ်။''

''ဟုတ်ကဲ့ ဘဘ''

''အခုပဲကြည့်လေ၊ သောတာပန် အရိယာကြီး များဟာ မိမိပြုမိသော အကုသိုလ် အပြစ်ဟူ၍ရှိလျှင် ထိုအပြစ်ကို လျှို့ဝှက် ထိမ်ချန်ထားခြင်း မရှိပါ တဲ့။ အဲဒီတော့ မင်းတို့ငါတို့က 'လူရိုင်းတွေး တွေးလိုက် ရင်၊ အဲသလောက် ဂုဏ်ကတော့ တော်ရုံ တန်ရုံ လူကြီး လူကောင်းတွေမှာလည်း ရှိတတ်ကြပါတယ်လို့ မပြောနိုင်ပေဘူးလား''

''ပြောနိုင်လိမ့်မယ်လို့ ကျွန်တော်တော့ ထင်ပါ တယ်။''

''အဲသလိုပြောလို့ မဖြစ်ဘူးမောင်ရေ၊ ပုထုဇဉ် တို့၏ ရိုးသားမှုဂုဏ်နှင့် အရိယာ သောတာပန်တို့ရဲ့ ရိုးသားမှုဂုဏ်ဟာ သိန့်ရေပုံ ကွာခြားနေပါသတဲ့။ ပရိတ်ကြီးနိဿယသစ်မှာ သခြှေက နိ ဆရာတော်ဘုရား ရဲ့ အဆိုအမိန့်ကို ကြည့်ပါ။

'သောတာပန်သားအတိဒ္ဓနမခြောက်ပါးကိုသာ မပြုထိုက်သည်မဟုတ်သေး။ အနည်းငယ်မျှမပြောပ လောက်သော ပြစ်မှုကလေးများကိုပင်၊ ပြုမိသော် ထိုပြစ်မှုကို ဖုံးကွယ်ခြင်းငှာ မထိုက်ပေ၊ဘေ။ မေ့မေ့လျော့လျော့ နေတတ်သူ သောတာပန် ဖြစ်စေ။ အပြစ်ကို ဖုံးကွယ်ထိမ်ဝှက်မှု ပြုတော့ သည်မှာ သာမန် ပုထုဇဉ်များနှင့်တူ၊ ထူးခြား သောဂုဏ်တစ်ရပ်ပင်'တဲ့။

အဲဒါသာကြည့်တော့။

နောက်တစ်ခုပြောဦးမယ်၊ ပုထုဇဉ်ဆိုတဲ့ ထိုလူစား မျိုးတွေမှာ ကိုယ်လုပ်မိတဲ့အပြစ်မျိုးက လူသိရှင်ကြား ဘူးပေါ်သလို ပေါ်လာမှ မလွှဲသာမရှောင်သာ ဝန်ခံ တတ်ကြတယ်၊ ဒါတောင် ရိုးရိုးဖြောင့်ဖြောင့် ဝန်ခံကြ

သလား၊ မခံကြပါဘူး။ ဆင်ခြေဆင်လက်အမျိုးမျိုးနဲ့ ခေါင်းရှောင်တတ်ကြတာချည်းပါပဲ။ သောတာပန် အရိယာများကျတော့ 'သူမသိ၊ လူမသိ' ပြုမိတဲ့အပြစ် ကလေး အသေးအမွှားပဲဖြစ်စေ၊ ဖြောင့်ဆို ဝန်ခံပြီး သက်ကြီး ဝါကြီး ပညာရှိကြီးများရဲ့ အဆုံးအမကို ရိုသေစွာ နာယူတတ်ပါတယ်။ ဒါဟာ သောတာပန် အရိယာများရဲ့ ဂုဏ်ပါ။ အေး.... သောတာပန် အရိယာသံဃာများမဆိုထားနှင့်ဦး၊ ထိုအရိယာသံဃာ တို့၏ လမ်းစဉ်ကိုတသွေမတိမ်း လိုက်နာကျင့်ကြံ အား ထုတ်တော်မူနေကြဘဲ့ သမုတိသံဃာတော် အရှင်မြတ် များပင်လျှင် အနည်းဆုံး လခွဲ (၁၅) ရက် တစ်ကြိမ် အသီးသီး အာပတ်ဖြေတော်မူကြတယ်လေ၊ ဒါဟာ 'သုဟုဇု' ဂုဏ်ပေါ့။''

''သြော....အာပတ် ဖြေတယ်ဆိုတာ ဒီသဘော ကိုး။''

''ဟုတ်ပါတယ်၊အာပတ်ဖြေတယ်လို့လဲ ခေါ်တယ်၊ အာပတ်ကိုကုစားတယ်လို့လဲ ခေါ်တယ်၊ ဒေသနာ ကြားတယ်လို့လဲ ခေါ်တယ်၊ ဥပုသ် ပြုတယ်လို့လဲ ခေါ်တယ်လေ၊ အဲ့ပွာယ်က 'မိမိမှာ သိပင်သိငြား သော်လည်း မလွဲ မရှောင်သာ၍ ပြုမိသောအပြစ်မျိုး ကိုသော်သည်းကောင်း၊ မသိ, မမှတ်မိ, စေတနာမရှိပဲ ပြုမိသော အပြစ်မျိုးကိုသော်လည်းကောင်း၊ တပည့် တော် ကျူးလွန်ခဲ့မိပါ၏–လို့ သီတင်းသုံးဖော်ထံ ရိုသေစွာရှိခိုးဝန်ခံကြမြဲဖြစ်ပါတယ်''

''သြော်... ဟုတ်ပြီ၊ ကျွန်တော် ဒုလ္လဘရဟန်း ဝတ်ခဲ့ဘုန်းက ဦးပဉ္စင်းတစ်ပါးက တိုင်ပေးလို့ ပါဠိလို ဆိုခဲ့ရတယ်လေ၊ 'အဟံ ဘန္တေ၊ သဗ္ဗာ အာပတ္တိယော၊ အာရောစယာမိ။' အဲဒီမှာဆရာတော်က 'သာဓု–သာဓု' လို့ ပြန်ဆိုသိုက်တော့ ကျွန်တော့်မှာ တစ်မျိုးကြီး ခံစားလိုက်ရသလို ဖြစ်သွားတယ်၊ ဘာဖြစ်လို့လဲ ဆိုတော့ ကျွန်တော်က အပြစ် ပြုမိပါတယ် လို့ ဝန်ခံ တာကို ဦးပဉ္စင်းက 'သာဓု–သာဓု' ကောင်းလေစွ၊ ကောင်းလေစွဆိုတော့ တစ်မျိုးကြီးဖြစ်နေတယ်ပေါ့။''

''ဟား....ဟား....အဲဒါကိုမင်းကဦးပဉ္စင်းကို မမေး ခဲ့ဘူးလား။''

''ဘယ်မေးဝံ့လိမ့်မလဲ ဘဘနှယ်။''

''အဲ....မင်းမှာ စပ်စုသိချင်တယ်ဆိုတဲ့ ဝါသနာ လေးတော့အရှိသားပဲ၊ သဘောက ဒီလိုကွယ့်။ မင်းက ဖြောင့်ဆိုဝန်ခံတာကို မင်းထက် အသက်၊ ဝါ၊ ကြီးတဲ့ ပုဂ္ဂိုလ်က မင်းမှာသုဟုဇုဂုဏ်နဲ့ ပြည့်စုံပါပေတယ်လို့ ချီးမွမ်းလိုက်တာဖြစ်တယ်၊ ဒီလိုမှတ်ရမှာကွ။''

''သြော်....ကျွန်တော် သဘောပေါက်သွားပါပြီ။ ကျွန်တော်ကအပြစ် ပြုမိပါတယ်လို့ ဝန်ခံတဲ့အတွက် ထိုရိုးသားတဲ့ဂုဏ်ကို ချီးမွမ်းတဲ့သဘောကိုး။''

''အေးကွယ့်၊ သောတာပန်အရိယာ သံဃာတော် များရဲ့ သုဟုဇုဂုဏ်က ထို့ထက် မြင့်မြတ်နေပါသေး တယ်၊ မြတ်စွာဘုရားကိုယ်တော်တိုင် 'မေတ္တသုတ်'မှာ ဟောကြားတော်မူထားတာကို ဆက်ပြီးကြည့်ပါ။

ဥဇူစ၊ သုဟုဇူစ၊ သုဝစောစဿ၊ မုဒုအနတ္တိမာနီတဲ့။

ရိုးသားရမယ်၊ အသေးအမွှားကစ ဖြောင့်မှန် ရမယ်၊ အပြစ်ကိုဝန်ခံရမယ်လို့ ဆိုပြီးတဲ့နောက် သုဝ စောစဿ=ပညာရှိ အကြီးအကဲများက ဆုံးမတာကို ခံယူရမယ်တဲ့။ အပြစ်ကို ဝန်ခံရုံသာဝန်ခံပြီး ပညာရှိ လူကြီးများက ထိုအပြစ်အဘွက် ဆုံးမတာကို လိုက်နာ ပြုပြင်လက်ခံခြင်းမရှိရင် ဘယ်နေရာကျမလဲ၊ မဟုတ် ဘူးလား။ အဲဒါကြောင့် အပြစ်ကိုဝန်ခံပြီးလျှင် ဆုံးမ စကားကို ခံယူရမယ်တဲ့။ ဟုတ်ပြီလား၊ အဲသလိုခံယူ နိုင်အောင် 'မုဒု=သဘောထားက 'နူညံ့'ပျော့ပျောင်း နေရမယ်တဲ့။ အဲဒီ–နူညံ့ပျော့ပျောင်းဖို့ဆိုရင်အနတိမာနီ (ထောင်လွှားတဲ့ မာန)ကို စွန့်ခွာ ပယ်ချ ထားရ မယ်တဲ့။''

''သြော်....တစ်ခုနဲ့ တစ်ခု ကွင်းဆက် တရားတွေပဲ နော်၊ ကြောင်းကျိုးဆက်သွယ်နေကြတာပဲ။''

''မိမိတွင် ရှိတဲ့အပြစ် လျှို့ဝှက် မထိမ်ချန်တဲ့ အကြောင်းနဲ့ ပတ်သက်ပြီး လယ်တီဆရာတော်ဘုရား ကြီးရဲ့ ထေရုပ္ပတ္တိထဲမှ အကြောင်းတစ်ခုကိုသတိရသေး သကွယ်။''

''လယ်တီဆရာတော်ဘုရားဟာ သနပ်ဖက်ဆေးလိပ် အကြီးကြီးတွေကို အလွန်ကြိုက်သတဲ့ကွယ့်၊ ကျောင်း ခန်းထဲက စားပွဲပေါ်မှာ ၄–၅–၁၀ လိပ်, မောင်း ထောင်ခွက်ထဲ ထည့်ထားတတ်ပယ်၊ သောက်လက်စ ဆေးပေါ့လိပ်ကိုလဲ သံပန် ကန်ပြားနဲ့ပြာခံပြီး ဆေး လိပ်ခွက်အဖြစ်အသုံးပြုသတဲ့ကွယ့်။

တစ်နေ့တော့ သာသနာပိုင်ဆရာတော်ဘုရား သူ့ ကျောင်းတော်ကို ကြွလာလိမ့်မယ်လို့ သတင်းရရှိထား လေတော့၊ ကျောင်းနေ ပဉ္စင်းပျိုလေးများက တစ်

ကျောင်းလုံးကို သုတ်သင် သန့်ရှင်းကြတာပေါ့၊ ဆရာတော်ဘုရားနေတဲ့ ကျောင်းခန်းကိုလဲ တံမြက်လှဲ၊ ဖုံသုတ်၊ အလုပ်ရှုပ်နေကြသတဲ့။ အဲ့ဒီမှာ ဆရာတော်ဘုရားရဲ့ ဆေးလိပ်မောင်းထောင်ခွက်ကြီးနဲ့ ဆေးလိပ်ပြာခံ၊ဆေးလိပ်တိုတို့ကိုပဉ္စင်းပျို့များကသိမ်းဆည်းမယ်လုပ်တော့—

''ဟဲ့ ...ဟဲ့ ဒါတွေကိုမသိမ်းကြနဲ့၊ ငါဆေးလိပ်သောက်တာကို သာသနာပိုင်သိချင်ရင် သိသွားပါစေ၊ မြင်လို့သိလို့ 'မောင်ညာဏ, က ဆေးလိပ်သောက်တတ်သကိုး' လို့ အမိန့်ရှိတော်မူရင် 'တင်ပါ့ဘုရား—ယခုအချိန်ကစပြီး တပည့်တော် ဆေးလိပ်မသောက်တော့ပါဘူးလုံ့ ဝန်ခံလိုက်မယ်၊ သူက ဘာမှမပြောပဲ လျစ်လျူရှုလိုက်ရင်တော့ ငါကြိုက်တဲ့ ဆေးလိပ်ကို ငါဆက်သောက်နေမှာပဲ။ အေး...၊ ငါဆေးလိပ်သောက်တာကို သူမသိမမြင်အောင် ထိမ်ချန် လျှို့ဝှက်ထားပြီး သူပြန်သွားမှ ငါကဆက်မသောက်ချင်ဘူး၊ အရှိကို အရှိအတိုင်း ထားလိုက်ကြ။ မောင်းထောင်ခွက်နဲ့ဆေးလိပ်ပြာခွက်ရော၊ ဆေးလိပ်တွေရော မသိမ်းကြနဲ့'လို့ တားတော်မူပါသတဲ့ဗျား။''

''ဟား....ဟား....၊ ဆရာတော်က ခပ်ရှင်းရှင်း ခပ်ပြတ်ပြတ်ပဲနော်၊ ကျွန်တော် ဖြင့် ကြည်ညိုလိုက်တာ။''

''အေးလေကွာ၊ ကောက်ကျစ်ယုတ်မာတဲ့လူများသာ ရှေ့တင်တမျိုး၊ ကွယ်လျှင်တစ်မျိုး လုပ်တတ်ကြတာ၊ နောက်ပြီးရှိတဲ့အပြစ်ကို ဖုံးရုံမကဘူး၊မရှိတဲ့ဂုဏ်တို့၊ သိက္ခာတုကိုလဲ ရှိဟန်ဆောင်တတ်ကြသေးတယ်။ အဲဒါမျိုးကိုတော့ 'မာယာသာထေယျ'လို့ ခေါ်သတဲ့ဗျ၊ တကယ်တမ်း သီလသိက္ခာ၊ ဂုဏ်အင်္ဂါပြည့်ဝတဲ့ သူတော်ကောင်းကြီးများကျတော့ မိမိကို အထင်ကြီးမှာ ရှက်စနိုးတော်မူလွန်းလို့ သိုသိပ်ကျစ်လျစ်စွာ နေတော်မူကြပါသတဲ့။''

''အင်း...ဒီလိုဆိုတော့လဲ ခေတ်ပေါ် တန်ခိုးရှင်ဆိုတဲ့ပုဂ္ဂိုလ်တွေကို စောကြောစရာ ကောင်းနေပြန်ပြီနော်''

''ဒါတော့ ကိုယ့်ဉာဏ်နဲ့ကိုယ်ချင့်ချိန်ကြပေါ့ကွယ်။ ပုထုဇဉ်နဲ့ သောတာပန် အရိယာ ဆိုတာမျိုးကတော့ ဆီနဲ့ရေခဲလောက် ကွာခြားပါတယ်လို့ ငါပြောခဲ့ပါပကော။ အေး...အဲဒီတရားများ ပြည့်စုံဖို့ကတော့ သောတာပန် အရိယာသံဃာတော်များမှာသာ အတိအကျ ပြည့်စုံကြမှာမဟုတ်လား။''

''ဟုတ်ပါတယ် ဘဘ''

''မြတ်စွာဘုရား ကိုယ်တော်မြတ်ကြီးဟာ တပည့်သားသံဃာတော်များ၌ ထိုဥဇုဂုဏ်နှင့်ပြည့်စုံကြတယ်လို့ ချီးမွမ်းပြီး 'ဥဇုပ္ပဋိပ္ပန္နော၊ဘဂဝတော၊ သာဝကသံဃော'လို့ ဟောတော်မူထားတာပေါ့။''

''ဟုတ်ပြီဘဘ၊ ကျွန်တော်အမှတ်ရပြီ''

''အဲဒီ ဥဇုဂုဏ်ကို ဖော်ပြခြင်းဖြစ်တဲ့ သံဃာအချင်းချင်းမှာ ဥပုသ်ပြုကြတာကို မြတ်စွာဘုရားက အလွန်လိုလားနှစ်သက်တော်မူပါတယ်။

''တရံရောအခါမှာ ဆိတ်ငြိမ်သော တောအရပ်၌ တစ်ပါးတည်း သီတင်းသုံးနေတော်မူတဲ့ သာဝကရဟန္တာတစ်ပါးကို 'ချစ်သား....၊ အသင်သည် လခွဲ တစ်ကြိမ် ဥပုသ်ပြုပါရဲ့လား'လို့ မေးတော်မူတယ်။ 'ဘုန်းတော်ကြီးသော မြတ်စွာဘုရား၊ တပည့်တော်သည် အရဟတ္တမဂ်ဖြင့် ကိလေသာဟူသမျှကို ပယ်ဖြတ်ပြီးစီးပြီဖြစ်သောကြောင့် (ဥပုသ်ပြုရန် မလိုတော့ဟုထင်သဖြင့်)ဥပုသ်မပြုမိပါဘုရား'လို့ လျှောက်ထားတဲ့အခါမှာ'ချစ်သား.... အရဟတ္တမဂ် ရောက်ရှိနေသူပင်ဖြစ်စေ၊ ဥပုသ်ပြုခြင်းသည် ကောင်း၏' လို့ တိုက်တွန်းတော်မူပါသတဲ့။ အဲဒီအချက်ကို ထောက်လျှင် သောတာပန် အရိယာသံဃာများကို ထားဘိဦး။ ရဟန္တာပုဂ္ဂိုလ်များကိုပင်လျှင်ဥပုသ်ပြုကြစေလိုကြောင်း မထင်ရှားပေဘူးလား။''

''ထင်ရှားပါတယ်''

''အေး.... နောက်တစ်ခု ရှိသေးတယ်၊ ဥပုသ်ပြုတယ်၊ အာပတ်ဖြေတယ်ဆိုတဲ့ ကိစ္စက သီတင်းသုံးဖော် ရဟန်းတစ်ပါးထံ တစ်ပါးက ဝန်ခံရုံနဲ့ပြီးတယ်၊'ပဝါရဏာ'ပြုတဲ့ကိစ္စကျတော့တစ်ကျောင်းတည်းနေသံဃာတော် အများစုကို တောင်းပန်ဝန်ခံရတာမျိုးဖြစ်တယ်။''

''ပဝါရဏာ—ဆိုတဲ့သဘောအဓိပ္ပါယ်ကိုပြောပါဦး ဘဘ''

''ပဝါရဏာ—ဆိုတာက ဒီလိုကွယ့်၊ သံဃာတော်များဟာ ဝါတွင်း ၃—လပတ်လုံး အရပ်တစ်ပါးသို့ ခရီးသွားလာခြင်း မရှိဘူး မဟုတ်လား။''

''ဟုဘ်ကဲ့၊ အဲ့သလို ဝါဆိုတယ် ဆိုတ ကိုတော့ ကျွန်တော်သိပါတယ်။''

''အေး....၊ အဲသလိုအတူတကွ ဘစ်ကျောင်းတည်းမှာ ဝါဆိုပြီးသည့်နောက် သီတင်းဝါလကျွတ်သို့ ခရီးတစ်ပါး ထွက်ကြွသွားလိုသော ရဟန်းကပဲဖြစ်စေ၊ အတူနေကြသောရဟန်းများပင်ဖြစ်စေ၊ မိမိတို့ပေါင်းသင်းဆက်ဆံနေခဲ့ကြရသော ထို၃-လ အချိန်ကာလတို့၌ မိမိတို့အပေါ်တွင် ကာယကံမှုအပြစ်ကြီး၊ အပြစ်ငယ်၊ ဝစီကံမှု အပြစ်ကြီး အပြစ်ငယ်၊ မနောကံမှု အပြစ်ကြီး အပြစ်ငယ်တို့ကို စန်ခံရုံသာ မကဘူး။ မိမိအပေါ်မှာ အပြစ် တစုံတရာ မြင်လျှင် သော်လည်းကောင်း၊ ကြားလျှင်သော် လည်းကောင်း၊ တွေးထင်ဖွယ် ရှိလျှင်သော် လည်းကောင်း မိန့်ဘပြောသို ဆုံးမတော်မူကြပါကုန်။ တပည့်တော်သည် မိမိကိုယ်ကိုအပ်နှံပါ၏။ ထိုအပြစ်များမှ ထမြောက်အောင် ရှိသေစွာ ကုစား ပြုပြင်ပါမည်ဘုရား–သို့ တောင်းပန်လျှောက်ကြားတာဖြစ်တယ်။ သံဃာများဆိုင်ရာ အရေးပါတဲ့ အခမ်းအနားကြီးပေါ့ကွယ်။''

''ဩော်....ကောင်းလိုက်တာဘတရယ်၊ မြတ်စွာဘုရားအလိုတော်အတိုင်း သည်လောက် တိတိကျကျလိုက်နာ ဆက်ဆံပေါင်းသင်း နေတော်မူကြလို့သာ သံဃာ အဖွဲ့အစည်းကြီးဟာ နှစ်ပေါင်း နှစ်ထောင့်ခြောက်ရာနီးပါးရှိခဲ့ပြီ။ နောင်ကိုလည်းအဓွန့်ရှည်စွာ တည်မြဲနေဦးမှာပဲနော်၊''

''ဒါပေါ့ကွယ်၊ ညီညီညွတ်ညွတ်စုပေါင်းဆက်ဆံနေကြခြင်းသည် ချမ်းသာသောအကျင့် ဖြစ်ပေ၏–တဲ့။ 'သမဂ္ဂါနံ တပေါ သုခေါ' လို့ ဘုရား ဟောထားတာပဲ။ အဲသလိုပဲ ကိလေသာကုန်ခန်းတဲ့ ရဟန္တာထေရာ ထေရီများပင်ဖြစ်စေ၊ မိမိတို့၏နောက်ဆုံးခရီးဖြစ်တဲ့ ပရိနိဗ္ဗာန် ပြုတော့မည်ဆိုလျှင် မြတ်စွာဘုရားအား လာရောက်တောင်းပန်လျှောက်ထားပြီး မိမိနှင့်အတူနေသူ မနေသူ ဟူသမျှ ပုထုဇဉ် ရဟန်းမှအစ ရဟန္တာများ အဆုံး မိမိ၌ ပြုမိသော ကာယကံ၊ ဝစီကံ၊ မနောကံ အပြစ်များကို ခွင့်လွှတ်ကြပါရန် တောင်းပန်လျှောက်ထားမြဲ ဖြစ်ပါသတဲ့၊

''အရှင်သာရိပုတြာ ကိုယ်တော်ကြီး ဆိုလျှင် သူ၏မယ်တော်သာရီပုဏ္ဏေးမ အိမ်ခန်း၌ ပရိနိဗ္ဗာန်ပြုခါနီးသွေးအံတော်မူဆဲအခါမှာပင်လျှင် သူ့တပည့်သာဝကငါးရာကို ခေါ်ယူစုဝေးစေပြီး 'ငါ့ရှင်တို့၊ သင်တို့နှင့်အတူတကွ အမြဲနေခဲ့သော ငါ့အပေါ်၌ ကာယကံ၊ ဝစီကံ၊ မနောကံ တစ်စုံတစ်ခုများသိနေခဲ့သည်ရှိသော် ထိုအပြစ်များမှခွင့်လွှတ် သည်းခံကြပါလေ'လို့ သူ ကိုယ်တိုင်က စတင်ပြီး သံသရာကျွေး ချေတော်မူပါသတဲ့ဗျား။''

''အင်း....၊ ကိုယ့်ဘပည့် ရဟန်းတွေကိုပင် လေးလေးစားစားနဲ့ တောင်းပန်တဲ့သဘောဟာ ဥဇုဂုဏ်နဲ့ ပြည့်စုံတော်မူတာပေါ့နော်''

''အေးပေါ့၊ ကိုယ့်တပည့်အပေါ်မှာ ဒီလိုတောင်းပန်ရသေးတယ်ဆိုရင် ရတနာ (၃)ပါးနဲ့ မိဘဆရာသမားများအပေါ်မှာ ဘယ်လိုသဘောထားရမလဲ၊ ရှေးရှေး ဆရာတော်ကြီး များက တို့တတွေ အတွက် ဩကာသဘုရားရှိခိုးကို စီရင် ရေးသားပေးတော်မူကြတယ်လေ။ မင်းဆိုကြည့်စမ်း။''

''ဩကာသ၊ ဩကာသ။ ကာယကံ၊ ဝစီကံ၊ မနောကံ တည်းဟူသော ကံ ၃–ပါးတို့မှ ကင်းလွတ် ပျောက်ပါစေခြင်းအကျိုးငှာ ပထမ, ဒုတိယ, တတိယ တစ်ကြိမ်၊ နှစ်ကြိမ်၊ သုံးကြိမ် မြောက်အောင်၊ ဘုရား ရတနာ၊ တရားရတနာ၊ သံဃာရတနာ။ ရတနာ မြတ်သုံးပါးတို့အား အရိုအသေ၊ အလေးအမြတ် လက်စုံမိုး၍ ရှိခိုးပူဇော်၊ ဖူးမြော်မာန်လျှော့ ကန်တော့ပါ၏ အရှင်ဘုရား။''

''ကဲ....အဲဒီမှာ 'ဩကာသ' က စကြည့်။

သည်းခံတော်မူပါဘုရား၊ သည်းခံတော်မူပါဘုရားတဲ့၊ ဘာကို သည်းခံရမှာလဲ၊ ရတနာသုံးပါး အပေါ်၌ မိမိပြုခဲ့မိသော ကာယကံ၊ ဝစီကံ၊ မနောကံ တို့ကိုပေါ့။''

''နောက်ဆက်ပြီး ကျွန်တော်တို့ ဆိုနေကြတာက အပါယ်လေးပါး၊ ကပ်သုံးပါး၊ ရပ်ပြစ်ရှစ်ပါး၊ ရန်သူမျိုး ငါးပါး၊ ဝိပတ္တိတရားလေးပါး၊ ဗျသနတရား (၅)ပါးတို့မှ အခါခပ်သိမ်း ကင်းလွတ် ငြိမ်းသည်ဖြစ်၍ မဂ်တရား ဖိုလ်တရား၊ နိဗ္ဗာန်တရားတော်မြတ်ကို ရပါလို၏ အရှင်ဘုရား–ဆိုတာတွေကကော။''

''ဒါက တို့တတွေရဲ့ ဆန္ဒကိုသာလျှောက်ထားနေကြတာပါကွာ၊ အပါယ်လေးပါး မကျဖို့နဲ့ နိဗ္ဗာန်ရောက်ဖို့ဟာကတော့ ကိုယ်လုပ်မှ ကိုယ်ရတာပဲ၊

စာမျက်နှာ (၅၇) သို့



# ဝဋ်နှင့်ကြွေးမှာ မလွတ်သာ
# ရှင်ဘောင်

(၁)

မကောင်းမှုဒုစရိုက်များကို ကျူးလွန် ပြုလုပ်မိရင် ကြီးစွာသောဘေးဒဏ် သင့်ရောက်ခြင်း ခံရမည်မှာ ကေန်မလွဲဖြစ်လို့ မကောင်းမှု ဒုစရိုက်မှန်သမျှ ရှောင်ကြဉ်ကြပါလို့ ကျွန်တော်တိုက်တွန်းပါတယ်။

မကောင်းမှု ၁၀–မျိုး ရှိပါတယ်။ ကိုယ်ထိ လက်ရောက်ကျူးလွန်တဲ့ မကောင်းမှုက ၃–မျိုး၊ နှုတ်ဖြင့် ပြောဆိုကျူးလွန်တဲ့ မကောင်းမှုက ၄–မျိုး၊ စိတ်ဖြင့် ကြံစည်ပြစ်မှားတဲ့မကောင်းမှုက ၃–မျိုး ဖြစ်ပါတယ်။

ကိုယ်ထိသက်ရောက် ကျူးလွန်တဲ့ ကာယဒုစရိုက် မကောင်းမှု ၃–မျိုး ကတော့ (၁) သူတစ်ပါးကို ညှဉ်းဆဲ သတ်ဖြတ်ခြင်း၊ (၂) သူတစ်ပါး၏ ပစ္စည်းဥစ္စာကို ခိုးခြင်း၊ လုယက်ခြင်း၊ တိုက်ခိုက်၍ ယူခြင်း၊ (၃) သူတစ်ပါး၏ သားမယားကိုပြစ်မှား ကျူးလွန်ခြင်းတို့ ဖြစ်ပါတယ်။

နှုတ်ဖြင့်ပြောဆိုကျူးလွန်တဲ့ဝစီဒုစရိုက် မကောင်းမှု ၄–မျိုးကတော့ (၁) သူတစ်ပါး နစ်နာပျက်စီးဆုံးရှုံးအောင် မဟုတ်မမှန် လိမ်လည်ပြောဆိုခြင်း၊ (၂) အချင်းချင်း မသင့်မတင့် ဖြစ်အောင် ကုန်းတိုက်ခြင်း၊ (၃) ကြမ်းတမ်းသောစကားကို ပြောဆိုခြင်း၊ (၄) အကျိုးမရှိယုတ်ညံ့ သိမ်ဖျင်းသောစကားကို ပြောဆိုခြင်းတို့ဖြစ်ပါတယ်။

စိတ်ဖြင့်ကြံစည်ပြစ်မှားတဲ့ မနောဒုစရိုက်မကောင်းမှု ဒုစရိုက် ၃–မျိုးကတော့ (၁) သူတစ်ပါး၏ပစ္စည်းကို မိမိပစ္စည်းဖြစ်လိုခြင်း (လောဘ)၊ (၂) သူတစ်ပါး နစ်နာပျက်စီးသေဆုံးစေလိုခြင်း (ဒေါသ)၊ (၃) မှားယွင်းသောအယူအဆ အတွေးအကြံရှိခြင်း (မောဟ) တို့ ဖြစ်ပါတယ်။

ဆိုခဲ့ဘဲ့ မကောင်းမှု ဒုစရိုက် ၁၀–မျိုးတွင်တစ်မျိုးမျိုးကို ပြုသည်ဖြစ်စေ၊ အများအပြားကို ပြုသည်ဖြစ်စေ မကောင်းကျိုး–ဆိုးပြစ်ခံရမြဲ ဖြစ်ပါတယ်။

မကောင်းမှုကို ပြုမိ မှားတဲ့အတွက် ကျွန်တော်ကိုယ်တိုင် ကြောက်မက်ဖွယ် ဘေးဒဏ်ခံရပုံကို ဖော်ပြမည် ဖြစ်ပါတယ်။

(၂)

ကျွန်တော့်ကို မွေးတာက မြန်မာသက္ကရာဇ်၁၂၄၇ ခုနှစ်၊ မြန်မာဘုရင် သီပေါမင်းလက်ထက်၊ အင်္ဂလိပ်နဲ့ မြန်မာစစ်ဖြစ်နေတုန်းမှာ ကျွန်တော့်ကို မွေးပါတယ်။ ဇာတိက ဆင်ပေါင်ဝဲမြို့ပါ။

ကျွန်တော့်အမည်က မောင်ကျား၊ ကျွန်တော့် အဖေက ဦးလှပေါ်ပါ။ ကျွန်တော်တို့ သားအဖ နှစ်ယောက်စလုံး လက်သမားဆရာတွေဖြစ်ကြပါတယ်။

ကျွန်တော့်အသက် ၂၅-နှစ်အရွယ်မှာ ကျွန်တော့် အဖေ အသက်က ၆၀ – ကျော်နေပါပြီ။ အဖေက ကောင်းကောင်းမကျန်းမာပါဘူး၊ အားအင်နည်းပါး ဆုတ်ယုတ်နေပါတယ်။

ဒါကြောင့် အဖေ့ကို နေ့စဉ် နွားနို့ တိုက်ရပါတယ်။ နေ့စဉ်နွားနို့ တော်တော်များများ ဝယ်တိုက်ရတော့ ငွေကုန် မနည်းလှပါဘူး။ နောက်ပြီးတော့ ဝယ်တဲ့နို့ဆိုတော့ ရောင်းတဲ့လူက နွားနို့ထဲ ရေရော ထားတော့ နွားနို့စစ်စစ် ကောင်းကောင်း မဟုတ် တော့ဘူးပေါ့။

ကျွန်တော့်အမေက နွားနို့ လက္ခဏာလေးတောင် ရွတ်ပြပါတယ်။ ''နွားနို့တစ်မြူ၊ ရေနှစ်မြူ၊ ဖြူရုံ ဖြူတဲ့နွားနို့ပါပဲ''တဲ့။ မြူဆိုတာက အိုးကို ခေါ် တာပါ။

တစ်နေ့တော့အဖေကပြောပါတယ်။''နွားနို့စစ်စစ် လဲ သောက်ရအောင်၊ များများစားစားလဲ သောက် ရအောင်၊ ငွေကုန်လဲသက်သာအောင် နို့စားနွားမ, တစ်ကောင် ဝယ်ပြီး ညှစ်သောက်ရတာက ကောင်း မယ်''တဲ့။



အဖေ့ဆန္ဒအတိုင်း နို့စားနွားမ, ရောင်းမယ့်သူကို လိုက်ရှာရပါတယ်။ နို့စား နွားမ, ဆိုတာက နွား သားငယ်ကလေး မွေးပြီးစ, နွားမ, ဖြစ်ပါတယ်။ ဒီတော့မှ နို့ထွက်မှာကိုး။

အဆင်သင့်ပါပဲ၊ ကျွန်တော်တို့မြို့ အရှေ့ပိုင်းက အိုးဖိုရပ်ထဲမှာနေတဲ့ ဦးအောင်ဘဆီက နို့စားနွားမ, ဝယ်ရပါတယ်။

ကျွန်တော်က နွားနို့ တစ်ခါမှ မညှစ်ဖူးတော့ နွားနို့ ညှစ်နည်းကို ဦးအောင်ဘထံမှာ မေးတော့ ဦးအောင်ဘက သေသေချာချာ ပြောပြပါတယ်။

''မနက်စောစောမှာ နွားနို့ညှစ်ရမယ်။ မညှစ်ခင် ပြင်ဆင်မှုတွေလဲ လုပ်ထားရတယ်။ ပြင်ဆင်မှုဆိုတာက ဒီလိုလေ၊ ညဦးကစပြီး နွားကြီးနဲ့ နွားကလေးကို တခြားစီခွဲပြီး ချည်ထားရတယ်။

''အဲ့ဒီလို ချည်မထားဘဲ လွှတ်ထားရင် နွားမကြီး နို့ကို နွားကလေးက တစ်ညလုံး စို့နေလို့ နို့ကုန် သွားတဲ့အတွက် မနက်ကျတော့ နို့ညှစ်လို့ မထွက် တော့ဘူး။ ဒါကြောင့် နွားသားအမိကို တစ်ညလုံး ခွဲချည်ထားရတာ။

''မနက်ကျတော့ နွားမကြီးမှာ နို့တွေ တောင့်နေ တယ်။ အဲဒီနို့ကိုညှစ်ယူပေမယ့် မထွက်ဘူး။ဘာဖြစ်လို့ မထွက်သလဲဆိုတော့ သူ့သားကလေးစို့တာမဟုတ်လို့ နို့ချမပေးဘူး၊ နို့လွှတ်မပေးဘူး၊ ဒါကြောင့် နို့ မထွက်တာ။

''ဒီတော့ ဘယ်လိုလုပ်ရသလဲဆိုတော့ ကြိုးနဲ့ ချည် ထားတဲ့နွားကလေးကို ကြိုးဖြေ လွှတ်လိုက်ရတယ်။ ဒီတော့မှ နွားကလေးက သူ့အမေနို့ကို ဝင်စို့လို့ နွားမကြီးက နို့ချပေးတယ်။

''အဲဒီလိုနို့ချပေးတော့မှ နွ းကလေးကို ဆွဲယူပြီး တိုင်တစ်တိုင်မှာ ကြိုးနဲ့ချည်ထား။ နောက်ပြီးတော့မှ နွားမကြီးနို့ကို ညှစ်ယူရတယ်။''

ဦးအောင်ဘ ပြောပြလိုက်သည်များကို ကျွန်တော် သေချာစွာ မှတ်သားပြီး နွားမကြီး သားအမိကို ကျွန် တော်တို့အိမ် ယူဆောင်ခဲ့ပါတယ်။



တစ်နေ့လုံးပဲ နွားမကြီးကို အစာ ကျွေးပါတယ်။ ရေလဲတိုက်ပါတယ်။ နွားကလေးကလဲ သူ့အမေနို့ကို အားရပါးရစို့ပါတယ်။

အဲ....ညအချိန်ရောက်လာတော့ ဦးအောင်ဘပြော သလို တင်ကြိုပြင်ဆင်မှု ပြုရတော့တာပါပဲ။

နွားမကြီးကို တိုင်တစ်တိုင်မှာ ကြိုးနဲ့ ချည်ထားပါ တယ်။ နွားကလေးကိုလဲ တခြား တိုင်တစ်တိုင်မှာ ကြိုးနဲ့ ချည်ထားပါတယ်၊ သူတို့ချင်း ခပ်ဝေးဝေး ချည်ထားပေမယ့်တစ်ကောင်နဲ့တစ်ကောင် မြင်နေရပါ တယ်။

စိတ်မချမ်းသာဖွယ်ကို စ,တံငီတွေ့မြင်ရပါပြီ၊

နွားကလေးမျာ နို့စို့ချင်ရှာလွန်းလို့ အတင်း ရုန်းပါတယ်။ ကြိုးက အင်မတန်ခိုင်တော့ ကြိုးမပြတ် ဘဲ နွားကလေးရဲ့လည်ပင်းသာ ပြတ်မတတ် ဖြစ်ရှာရ ပါတယ်။

နွားမကြီးကလဲ သူ့သားနွားကလေးကို နို့တိုက် ချင်ရှာလွန်းလို့ အတင်းရုန်းပါတယ်၊ ကြိုးကခိုင်တော့ ကြိုးမပြတ်ဘဲ နွားမကြီးရဲ့ လည်ပင်းသာ ပြတ်မတတ် ဖြစ်ရှာပါတယ်။

အဲဒီလို နွားမကြီးရော နွားကလေးရော ရုန်းကြ ရင်း နှစ်ကောင်စလုံး မျက်ရည်တွေ လည်နေတယ်လို့ ကျွန်တော်ထင်မိပါတယ်။

စကားမပြောတတ်ဘဲ နွားဖြစ်လို့သာ ရုန်းရင်း ကန်ရင်း မျက်ရည် လည်ကြရှာပါတယ်။ သူတို့ဟာ လူတွေလိုသာ သိတတ်၊ စကားပြောတတ်ရင်တော့– ''ရက်စက်လှချည့်လားကွာ....၊ ဒီ မကောင်းမှုတွေ ကြောင့် မကောင်းတဲ့ ဒဏ်တွေ မင်းတို့ခံရမှာပဲ'' လို့ ပြောလိမ့်မယ်ထင်ပါတယ်။

ဟုတ်လဲဟုတ်ပါတယ်။ နွားတွေမှာလဲ အသက်နဲ့ ခန္ဓာကိုယ်နဲ့မို့ သိတတ်၊ နာကျင်တတ်၊ ဝေဒနာခံစား တတ်ပါတယ်။ နွားတွေကို အခုလို အနိုင်ကျင့်သလို လူအချင်းချင်းကိုသာ အနိုင်ကျင့်ရင်တော့ ဂါတ်တွေ, ရုံးတွေရောက်မှာ သေချာပါတယ်။ တိရစ္ဆာန်ကျတော့ ဘယ်လိုပဲနှိပ်စက် နှိပ်စက် ဘယ်သူကမှ အရေးမယူ၊ ဘာအမှုမှမဖြစ်ဘဲ ကင်းလွတ်ခွင့် ရပါတယ်။

ဆိုခဲ့တဲ့အတိုင်းပါပဲ၊ နွားကလေးက နို့စို့ချင်ရှာ လွန်းလို့ ရုန်း၊ နွားမကြီးကလဲ သူ့သားကလေးကို နို့တိုက်ချင်ရှာလွန်းလို့ ရုန်းနဲ့ သူတို့ သားအမိ ဒုက္ခ ဝေဒနာ ခံစားရတာဟာ တစ်ညလုံးပါပဲ။ ညနေ ၆–နာရီက နံနက် ၆–နာရီအထိ ၁၂–နာရီကြီးများ တောင် ကြာပါတယ်။ နည်းတဲ့အချိန် မဟုတ်ပါဘူး။

မနက် ၆–နာရီလောက်ကျတော့ နွားမကြီးနို့ကို ကျွန်တော်ညှစ်ပါတယ်။ နို့တစ်စက်မှ မထွက်ပါဘူး။ သို့ပေမယ့်နို့အုံကြီးထဲမှာနို့တွေအပြည့်နဲ့ တောင့်ခဲနေ ပါတယ်။ တစ်ညလုံး နွားကလေး မစို့ရလို့ နို့တွေ ပြည့်ကျပ်နေတာပါပဲ။ သို့ပေမယ့် သူ့သားမဟုတ်လို့ နွားမကြီးက နို့ချမပေးတာပါ။

ဒီတော့တစ်မျိုးလုပ်ရပြန်ပါတယ်။ နွားကလေးကို ချည်ဘိုင်ကဖြေလွှတ်လိုက်တော့ တစ်ညလုံး နို့မစို့ရတဲ့ နွားကလေးဟာ သူ့အမေထံ ပြေးသွားပြီး အငမ်းမရ နို့စို့တော့တာပါပဲ။ ဒီတော့မှနွားမကြီးက သူ့သား စို့ဖို့နို့ချပေးတယ်။ နို့တွေ ထွက်နေပြီပေါ့။

အဲဒီလို နို့တွေ ထွက်နေတုန်းမှာပဲ နွားကလေး လည်ပင်းမှာ ချည်ထားတဲ့ကြိုးကို အတင်းဆွဲယူရတယ်။ နွားကလေးကလဲ နို့စို့လို့ ကောင်းနေတုန်းမို့ ဆွဲ မရဘူး၊ အဘင်းပေကပ်ပြီးနို့စို့နေတာပဲ။ သို့ပေမယ့် နို့စို့နေတဲ့ နွားကလေးကို နို့က ခွာဆုတ်အောင် အတင်းဆွဲယူပြီး ချည်တိုင်မှာပြန်ချည်ထားလိုက်တယ်။

နွားကလေးဟာ နို့စို့ချင်လွန်းလို့ သူ့အမေကို ကြည့်ရင်း ဘဲဘဲနဲ့အော်နေတယ်။ နွားမကြီးကတော့ မျက်ရည်တွေဝဲပြီး ကျွန်တော့်ကို မကျေနပ်တဲ့မျက်နှာ ထားနဲ့ ကြည့်နေတယ်။

ကျွန်တော်လဲရှက်တောင်လာတယ်။ "ငါဟာ နွားကလေးစို့ရမယ့်နို့ကိုအဘင်းခါးပြတိုက်ယူရတော့မှာပါကလား" လို့တွေးမိပြီး စိတ်မကောင်းခြင်း အကြီးအကျယ်ဖြစ်မိပါတယ်။

သို့ပေမယ့် မဘတ်နိုင်ဘူး။ "ပေါက်တဲ့နဖူး မထူးတော့ဘူး" ဆိုတာလို လုပ်မိတဲ့ အလုပ်ကို ဆက်လုပ်ရတော့ဘာပဲ။ နွားမကြီးနို့ကို ကုန်သည်တိုင်အောင်ညှစ်ယူရတော့တာပါပဲ။

အဲ....အားရအောင်ညှစ်ယူလို့ နို့ကုန်တော့မှ နွားကလေးကိုချည်တိုင်က ဖြေလွှတ်လိုက်တော့ နွားကလေးဟာ သူ့အမေဆီပြေးသွားပြီး အတင်း နို့စို့တော့တာပါပဲ။ သို့ပေမယ့်ကျွန်တော်က ကုန်အောင် ညှစ်ယူထားတော့ ဘယ်မှာ နို့ထွက်တော့မလဲ။

ကျွန်တော်လုပ်ရတဲ့အလုပ်ဟာ စိတ်ပျက်စရာ၊ စိတ်မကောင်းစရာ၊ နွားသားအမိကိုအကြီးအကျယ်ညှဉ်းဆဲနှိပ်စက်ရာကျနေပါပေါ့ကလားလို့ တွေးမိပြီးဝမ်းနည်းမိပါတယ်။



(၃)

မလုပ်သင့် မလုပ်ထိုက်ဘူးလို့ ကျွန်တော်ထင်တဲ့အလုပ်၊ တစ်နည်းပြောရရင် နွားသားအမိကိုအတင်းခါးမြဲတိုက်ရတဲ့အလုပ်ကို နေ့စဉ်ရက်ဆက် လုပ်ခဲ့ရတာ ရက်ပေါင်း ၃၀၊ တစ်လတိတိကြာသွားပါပြီ။

ညစဉ်–ညစဉ်မှာပဲ ည ၆–နာရီအချိန်က နံနက် ၆–နာရီအချိန်အထိ တစ်ညမှာ နာရီပေါင်း ၁၂–နာရီကြာအောင် နွားသားအမိကို ခွဲထားပြီး၊ နို့မစို့နိုင်အောင်၊ နို့ တော်အောင်လုပ်ထားခဲ့မိတာရက်ပေါင်း ၃၀–ဘိတိ ရှိပြီဖြစ်လို့ နာရီပေါင်း ၃၆၀–ကြာခဲ့ပါပြီ။

အဲဒီအအချိန်မှာ အဖြစ်ထူး တစ်ခု ကြုံရပါတယ်။ ကျွန်တော့်ဇနီးက သမီးကလေးတစ်ယောက် မွေးဖွားပါတယ်။ ချစ်စရာသမီးကလေးပါ။ ချစ်လိုက်တာလဲ လွန်ပါလေရော။

သို့သော်....

ဟုတ်ကဲ့၊ ကျွန်တော်ပြောရမှာတောင် ခက်နေပါတယ်။ မပြောချင်ပါဘူး။ မပြော မဖြစ်လို့ မျက်ရည်ဝဲပြီးပြော ပြပါ့မယ်။

ကျွန်တော့် သမီးကလေး.... ကျွန်တော့် သမီးကလေး.... မွေးခါစ ကျွန်တော့် သမီးကလေးဟာ မွေးလာလို့တော်တော်ကလေးကြာရင်ပဲ နို့ဆာလို့ နို့စို့ချင်လို့ ငိုရှာပါတယ်။ ဒီတော့ ကျွန်တော့် ဇနီးက သမီးကလေးကို နို့တိုက်ပါတယ်။

ကလေးဟာ နို့ကိုငုံပြီး တစ်ကျိုက် – နှစ်ကျိုက်လောက်ပဲစို့ရသေးတယ်၊ တစ်စုံတစ်ယောက်က ဆွဲယူလိုက်သလို နို့နဲ့ခွဲပြီး ပက်ကနဲ လန်ကျသွားပါတယ်။

သူ့အမေက ထပ်တိုက်ပါတယ်။ တစ်ငုံ–နှစ်ငုံငုံပြီး နောက်ကို လန်ကျသွားတာပါပဲ။ တိုက်တိုင်း–တိုက်တိုင်းနို့ကိုတစ်ချက်–နှစ်ချက်သာ စို့နိုင်ပြီး ပက်လက်လန်ကျ သွားပါတယ်။ နို့စို့ချင်လွန်းလို့ – နို့ဆာလွန်းလို့ ကျည်ကျည်တက်အောင် ငိုရှာပါတယ်။

ကလေးအမေရော၊ ကျွန်တော်ပါ ကလေးရဲ့ ဖြစ်အင်ကိုမမြင်ဝံ့ မရှုရက်လို့ မျက်ရည် ကျရပါတယ်။

ထိုအတိုင်းပါပဲ။ ပြောရမှာတောင်ရှက်ပါရဲ့။ နွားမကြီးကို နို့ညှစ်ခါနီးမှာ နို့ချမပေးလို့၊ နွားကလေးကိုအစို့ခိုင်း၊ နွားကလေး တစ်ကျိုက်–နှစ်ကျိုက်စို့လို့ နွားမကြီးက နို့ချပေးတာနဲ့တစ်ပြိုင်နက် နွားကလေးကိုကျွန်တော်က အတင်း ဆွဲယူ ချည်နှောင်ထားပြီး နွားမကြီးနို့ကို ကုန်အောင် ကျွန်တော်က ညှစ်ယူခဲ့တဲ့ ဝဋ်တွေ....ဝဋ်တွေ....၊ အခု ကျွန်တော့် သမီး မွေးစပေါက်ကလေးမှာ ဒီအတိုင်းခံနေရတာပါပဲ။

နို့ဆာလွန်းလို့ငို၊ သူ့အမေက နို့တိုက်တိုက်၊ တစ်ငုံ–နှစ်ငုံ စို့ရှိရှိသေး၊ တစ်ယောက်ယောက်က ဆွဲလှန်လိုက်သလို ပက်ကနဲလန်ကျသွား၊ နို့ဆာလွန်း နို့စို့ချင်လွန်းလို့ အော်ပြီး ငိုနေရှာရတယ်။

ကျွန်တော်က နွားကလေးကိုပြုခဲ့တဲ့ ပုံအတိုင်းပဲ ကျွန်တော့်သမီးကလေး ခံစားနေရပါပြီ။ ဝဋ်လည်နေရပါပြီ။

(၄)

ကလေးက နို့မစို့နိုင်တော့ ကျွန်တော်တို့ အရပ်ထဲက ဆေးဆရာကြီး ဆရာမိုးကိုပင့်ခေါ်ပြီးပြပါတယ်။

ဆရာမိုးက အမျိုးမျိုး စမ်းသပ် ကြည့်ပြီး "ဘာ ရောဂါအခြေအနေကိုမှ မတွေ့ရဘူး၊ ဘယ်လိုဖြစ်တာပါလိမ့်" လို့ ပြောပါတယ်။

ဒီတော့ကျွန်တော်က နွားနို့ညှစ်ရာမှာ နွားကလေးကို နည်းနည်းအစို့ခိုင်းပြီး နွားကလေးမစို့ရအောင် ဆွဲယူချည်ထားပြီး နွားမကြီးနို့ကို ကုန်အောင်ညှစ်ယူရတဲ့အကြောင်း ပြောပြပါတယ်။

ဒီတော့ဆေးဆရာကြီးက "ဝိပါက်အမြဲ ရဲအပတဲ့ကွ၊ ဝိပါက်တို့ ဝဋ်တို့ဟာ အင်မတန် ကြောက်စရာကောင်းတယ်၊ ရှောင်လို့လဲမလွတ်ဘူး။ ဒီတော့နွားနို့ညှစ်တဲ့အလုပ်ကို မလုပ်နဲ့တော့" လို့ ပြောပါတယ်။

ကျွန်တော်က "သမီးကလေး မွေးလာပြီး နို့ဝအောင် မစို့နိုင်တာ မြင်ရကတဲက ကျွန်တော် နွားနို့မညှစ်တော့ပါဘူး" လို့ ပြောပြလိုက်ပါတယ်။

ကလေးကတော့ဖြင့် သနားစရာ၊ ရင်နာစရာ၊ စမ်းနည်းစရာ၊ ယူကျုံ့မရဖြစ်စရာပါပဲ။ နို့ဆာလွန်းလို့ ငို၊ သူ့အမေက နို့တိုက်တော့ ခဏကလေးပဲ စို့နိုင်ပြီး နွားကလေးကို ကျွန်တော်လုပ်မိတဲ့အတိုင်းပါပဲ၊ ပက်ကနဲနောက်ကိုလန်ကျသွားပြီးနို့မဝလို့ တငိုတည်း ငိုနေတော့တာပါပဲ။

ကလေးအမေရော ကျွန်တော်ပါ စိတ်မကောင်းဖြစ်လွန်းလို့ မျက်ရည်ကျရပါတယ်။

(၅)

တစ်နေ့မှာတော့ ကျွန်တော်တို့ကိုးကွယ်တဲ့ ဆရာတော်ကြီးကို ဆွမ်းကပ်လှူပြီးကျွန်တော်တို့သမီးကလေးရဲ့ ရင်ထုမနာဖြစ်ဖွယ်ကိစ္စ ကြုံရပုံကို ဆရာတော်ကြီးအား အကျိုးအကြောင်းစုံလင်အောင် လျှောက်ထားပါတယ်။

နောက်ပြီးတော့ ကျွန်တော်က လျှောက်ပါသေးတယ်။

"တပည့်တော် အကုသိုလ်ပြုခဲ့မိတာ မှန်ပါတယ်။ နွားကလေးကိုနို့မစို့ရအောင် ပြုမိတဲ့ အကုသိုလ်ပါ။ အဲဒီအကုသိုလ်ကြောင့် တပည့်တော် ရင်သွေး သမီးကလေးဟာနွားကလေးခံစားရတဲ့ဒုက္ခဝေဒနာ ခံစားနေရတာကို မြင်တွေ့နေရတော့ တပည့်တော် ရင်ကွဲမတတ် ပူပန်ဆွေးမြေ့ရပါတယ်။ အဲဒါဟာ တပည့်တော်စေတနာအတိုင်းအကျိုးပေးတာပါပဲ၊ သို့ပေမယ့် တပည့်တော်ပြုတဲ့ အကုသိုလ်မျိုးကို မပြုခဲ့တဲ့ တပည့်တော့်ဇနီးနဲ့ သမီးကလေးက ဒီလို ဝဋ်ဒုက္ခမျိုး ခံနေရတာကတော့ ဘာဖြစ်လို့လဲဘုရား။"

ကျွန်တော်ကဒီလိုလျှောက်တော့ ဆရာတော်ကြီးက မိန့်တော်မူပါတယ်။ "ပုထုဇဉ် သတ္တဝါတွေမှာ ဘဝပေါင်းများစွာ မရေမတွက်နိုင်တဲ့သံသရာတစ်လျှောက်မှာ ပြုခဲ့တဲ့ အကုသိုလ် တွေဟာလဲ မရေမတွက်နိုင်အောင်များခဲ့ကြတယ်။ ဒီတော့ဒကာကလေးရဲ့ဇနီးနဲ့ သမီးကလေးမှာလဲ ဒကာလေးရဲ့အကုသိုလ်မျိုး ရှိနိုင်တယ်။ ဒါကြောင့် ဇနီးရော သမီးပါ ဒုက္ခဝေဒနာ ခံစားရတာ။ သံသရာ တစ်လျှောက်လုံး ပြုခဲ့တဲ့ အကုသိုလ်တွေ ကုန်ခင်ဖို့ နည်းကတော့ ငါဆိုတဲ့ သက္ကာယဒိဋ္ဌိ ကင်းပြတ်ပြီး သောတာပန် ဖြစ်ရင် အကုသိုလ်အားလုံးကင်းပျောက်တယ်။ ဒီတော့ သောတာပန်ဖြစ်အောင် ကြိုးစား အားထုတ်ကြ။"

ကျွန်တော်သည်နွားကလေးကိုတစ်လတိတိ နှိပ်စက်မိခဲ့သလိုကျွန်တော့်သမီးကလေးလဲတစ်လတိတိနို့ငတ်တဲ့ဝေဒနာခံစားပြီး သေဆုံးသွားရှာပါတယ်။ ။

(အထက်ဖော်ပြပါ အဖြစ်အပျက်ကို ပြောပြသူမှာ ဤစာရေးသူ၏ ဖခင်ဖြစ်ပါသည်။)

ရန်အောင်



မဟောသဓ သုခမိန်သည် ထီးဆောင်းမင်း တို့၏ ကျေးဇူး ပူဇော်မှုကို နှစ်သိမ့်စေပြီးနောက် စူဠနီ ဗြဟ္မဒတ်မင်းကြီးဆီသို့ စူးရှရဲဝံ့သော မျက်လုံးများဖြင့် လှမ်းကြည့်လိုက်လေသည်။ စူဠနီဗြဟ္မဒတ်မင်းကြီးကား မျက်နှာကိုအောက်သို့ချလျက်သာ ရှိနေလေသည်။

''အရှင်မင်းကြီး၊ မကောင်းသောအဆွေခင်ပွန်းနဲ့ ပေါင်းမိပြီး ယုတ်ညံ့တဲ့ အကြံကို ကြံစည်မိခြင်းဟာ အရှင့်ရဲ့အပြစ်သာစင်စစ်ဖြစ်ပေတယ်၊ ဒီအပြစ်အတွက် ထီးဆောင်းမင်းအပေါင်းကို အရှင်မင်းကြီး တောင်းပန်တော်မူပါ''

နောင်တ ဆင်ခြင်တုံတရားတို့ဖြင့် ပျောင်းအိ နူးညံ့သွားပြီဖြစ်သော စူဠနီ ဗြဟ္မဒတ် မင်းကြီးကလည်း အမှန်တရားကို ရဲဝံ့စွာ ရင်ဆိုင်နိုင်ပေပြီ။ ကျူးလွန်မိသောအပြစ်ကို တောင်းပန်ဝန်ချရန်အတွက်မင်းကြီးသည် စမုခ်ဦးစင်ပေါ်တွင် မတ်တပ်ရပ်လိုက်သည်။

''ထီးဆောင်းမင်း အပေါင်းတို့၊ ကေဝဋ္ဋအမတ် စကားယုံမှားပြီး မကောင်းတဲ့ အကြံအစည်နဲ့ ကျွန်ုပ် သင်တို့အပေါ် ပြစ်မှား မိခဲ့ပါတယ်၊ ဒီအပြစ်ကြီး အတွက်၊ သင်တို့ကိုကျွန်ုပ်တောင်းပန်ပါတယ်၊ ကျွန်ုပ်ကို ခွင့်လွှတ်ကြပါ။ နောက်နောင် ဘယ်သောအခါမှ ပြစ်မှားခြင်းမပြုတော့ပါဘူးလို့ ကျွန်ုပ် သစ္စာကတိဆိုပါတယ် ထီးဆောင်းမင်းတို့''

''ခွင့်လွှတ်ပါတယ်၊ မင်းကြီး''



# ချစ်ဦးညို

## ငြိမ်းချမ်းရေးမဟာတမန်

"ကျွန်ုပ်တို့အရေးအရာမယူပါဘူး အရှင်မင်းကြီး၊ ခွင့်လွှတ်ပါတယ်"

ကိုယ်စိတ်စကား အခြားအထူးမရှိ၊ နိတုံရွှေပမာ တစ်သားတည်းခတ်၊ တစ်ထပ်တည်း တည်ရှိညီညွတ်ကြပေပြီ။

စူဠနီဗြဟ္မဒတ်မင်းကြီးသည်တင့်တယ်သောအသရေ၊ ကြည်လင်သော အသွင်ဖြင့် ကြွေးကြော် လိုက်လေသည်။

"ထီးဆောင်းမင်း အပေါင်းနဲ့ အားလုံးသော မှူးမတ်ဗိုလ်ပါများဟာ ဒီလက်ထပ်တဲ့နန်းမှာပဲ ကျွန်ုပ်တို့ ခုနစ်ရက် ခုနစ်လီ ချစ်ကြည် ညီညွတ်ရေး အောင်ပွဲသဘင်ကြီးကို ခံကြပါစို့။ အတုမဲ့တဲ့ မဟောသဓ သုခမိန်မြတ်ကြီးကိုလဲ ကျွန်ုပ်တို့ အားလုံးက ရွှေငွေ အဝတ်တန်ဆာရတနာ ဆင် မြင်းများနဲ့ ချီးမြှောက် ပူဇော်ကြပါစို့၊ အားလုံးပွဲသဘင် ပြီးမြောက်မှ ပဉ္စာလရာဇ်နန်းတော်တွင်းကို ပြန်ကြပါစို့"

ငြိမ်းချမ်းရေး အလင်းရောင်သည် ကမ္ဘာမြေပြင်ပေါ်၌ ရွှန်းပတောက်လက်စွာ ကျရောက် စီးဖြာလာပေပြီ။

\+ \+ \+

ပဉ္စာလရာဇ် နန်းတော်ဦးဝယ် အတူတကွ စံပယ်ကြရင်း....စူဠနီဗြဟ္မဒတ်မင်းကြီးသည်မဟောသဓအား လေးမြတ်စွာပြောဆိုလိုက်လေသည်။

တိုင်းပြည်အတွင်းဗြဟ္မဏအယူဝါဒလည်း ရှိသည်။ သက်န်းရောင်ပုဆိုးဝတ်သည့် ပေက္ခရက်တိတ္ထိတို့လည်း ရှိသည်။ ပရိဗ္ဗာဇက တိတ္ထိတို့လည်း ရှိသည်။ အဝတ်မဆီး အချည်းနှီးနေကြသည့် အစေလကတိတ္ထိတို့လည်း ရှိသည်။ နိဂဏ္ဌတို့လည်းရှိသည်၊ နတ္ထိကဝါဒီတို့လည်း ရှိသည်။ ဤသို့အားဖြင့် အယူဝါဒအမျိုးမျိုးတို့ အားပြိုင်လျက်ရှိကြသည်။

အသောကမင်းတရားကြီးသည် ဘာသာအယူဝါဒအားလုံးအပေါ် ထောက်ပံ့မှု၊ ပေးကမ်း လှူဒါန်းမှုများကို ပြုလုပ်ခဲ့သည်။ သို့ရာတွင် ထိုအလှူခံများသည် လျှပ်ပေါ်လော်လီသူများချည်း ဖြစ်သည်ကို တွေ့မြင်နေရသောကြောင့် စိတ်ပျက်လျက်ရှိသည်၊

တစ်နေ့သောအခါတွင် အသောက မင်းတရားကြီးသည် သုမနဒေဝီ၏သား နိဂြောဓသာမဏေကို လှမ်းမြင်လိုက်သည်။

ထိုဘွင်ဤသို့တွေးမိသည်။ ငါတွေ့နေကျ၊ မြင်နေကျ အလှူခံပုဂ္ဂိုလ်တို့ကား ဣန္ဒြေသိက္ခာမရှိ၊ လျှပ်ပေါ်လော်လီကြ၏။ ဤသာမဏေငယ်မှုကား တည်ငြိမ်၏၊ ဣန္ဒြေရ၏၊ သိမ်မွေ့နူးညံ့၏။ သူ၏အတွင်းသန္တာန်၌ တရားမြတ်ကိန်းအောင်းနေလိမ့်မည်ဟု ဆင်ခြင်မိ၏။

သို့ဖြင့်အသောကမင်းကြီးသည် အမတ်တစ်ဦးအား သာမဏေငယ်ကို လိုက်ပင့်ချေဟု စေခိုင်းလိုက်သည်။ သာမဏေသည် နန်းတော်တွင်းသို့ ရောက်လာသောအခါ မိမိထက် သိက္ခာဝါကြီးသော ရဟန်းသံဃာ တစ်စုံတစ်ဦးကိုမျှ မတွေ့ရှိသည်နှင့် မင်းတရားကြီးအား သပိတ်သက်န်း ကမ်းလှမ်းပေးပြီး ထီးဖြူအုပ်မိုးထားသည့် ရာဇပလ္လင်ထက်၌ ထက်ဝယ်ဖွဲ့ခွေ ထိုင်နေတော်မူလိုက်သည်၊ မင်းတရားကြီးသည်သာမဏေ၏ အပြုအမူကို သဘောကျနှစ်ခြိုက်ကာ အပြုံးပီတိဖြစ်လျက်ရှိသည်။

အသောကမင်းကြီးသည် ကိုယ်တော်တိုင် နိဂြောဓသာမဏေအား ဆွမ်းကပ်လှူတော်မူလေသည်။ ဆွမ်းဘုဉ်းပေးပြီးသောအခါ နိဂြောဓ သာမဏေသည် 'အပ္ပမာဒေါ အမတံ ပဒံ၊ ပမာဒေါ မစ္စုနော ပဒံ' အစရှိသည့်ဒေသနာကို မင်းကြီးအား ဟောကြားလေ၏။ အသောကမင်းကြီးသည်ထိုနိဂြောဓသာမဏေကို အကြောင်းပြု၍ နောင်တွင် ဗုဒ္ဓသာသနာကိုစံတင် လောက်အောင် ကြည်ညို လေးစားသည့် ဘုရင်မင်းမြတ် ဖြစ်လာလေ၏။

ထိုအချိန်ကမဂဓတိုင်းအတွင်း အမိန့်တော်ပြန်တမ်း ကျောက်စာများကို ဖတ်လျှင် အသောက ဘုရင်ကြီးသည် ဗုဒ္ဓဓမ္မနှင့် မည်သို့နှီးနွယ်၍ တိုင်းပြည်အား အုပ်ချုပ်သွားကြောင်း တွေ့ရပါမည်၊ နမူနာအားဖြင့် သိလာနုသာရီကျောက်စာမြန်မာပြန်ကိုဖော်ပြပါမည်။

**သိလာနုသာရီကျောက်စာ**
**(တရားတော် ကျောက်စာ)**

ရာပေါင်းများစွာသော နှစ်တို့ပတ်လုံး သေးငယ်သော သတ္တဝါတို့ကို သတ်ဖြတ်ခြင်း၊ ကြီးမားသော သတ္တဝါတို့ကို ညှဉ်းဆဲခြင်း၊ ဆွေမျိုး–ဉာတိတို့၌ ဝတ္တရားကျေလည်အောင် မကျင့်ဆောင်ခြင်း၊ ရဟန်း ပုဏ္ဏား သူတော် သူမြတ်တို့အပေါ်၌ တရားနည်းကျ မကျင့်ဆောင်ခြင်း၊ ဤကောင်းမှုတရား အားလုံး တိုးပွားပြန့်စည်လျက် အသက်အပိုင်းအခြား ကာလကို ကုန်လွန်ဖြုန်းတီးခဲ့လေပြီ။ ထို့ကြောင့်ယနေ့ယခုအခါ မင်းတကာတို့ ချစ်ကြည်လေးစားအပ်၍ 'ပိယဒဿီ' ဟု ဘွဲ့ချီးခတ်နှိပ် အရှင်မဟာကဿပ မထေရ်မြတ်၏ ဗျာဒိတ်တော်ကို ခံယူရရှိသော အသောကမင်းတရားမြတ်ကြီးသည် ကိုယ်တော်တိုင် တရားတော်ကို ကျင့်ဆောင်လိုက်နာခြင်းဖြင့် တရားစည်ကြီး ရိုက်ဟည်း ကြွေးကြော်လိုက်သည်။ တရားတော် ဟူသော ကြွေးကြော်သံသည် သြော်....အဖန်ဖန် ဝမ်းမြောက်စဖွယ် ဖြစ်စွတကား။

ဤလောက၌ ထိုထိုရှုမခန်းသော ဘုံနန်းဗိမာန် အထွေထွေကို ကြည့်ရှုရွှင်ပျရခြင်းတန်ဆာ၊ အတင့်အတယ်ဆင်ယင်ထားသော ဆင်ယာဉ်၊ မြင်းယာဉ် စသည်ကို ကြည့်ရှု ချမ်းမြေ့ရခြင်း၊ အတင့်အတယ် ထွန်းညှိရှို့မြိုက်သောမီးပန်း၊ မီးပိဘုန်း၊မီးပန်းခိုင်၊ မီးဒုံးမီးတောက်ကိုကြည့်ရှုနှစ်သက်ရခြင်း(ဤသို့စသည် ဖြင့်) ဤမှတစ်ပါးများစွာသော ရွှင်ပျ ပျော်မွေ့ဖွယ် ဝတ္ထုအာရုံတို့ကို ကြည့်ရှုကြ၍ (အချိန်အခါ ကုန်ဆုံးကြသော) လူအပေါင်းတို့အား မင်းတကာတို့ချစ်ကြည်လေးစားအပ်၍ပိယဒဿီဟု ဘွဲ့ချီးခတ်နှိပ် အရှင်မဟာကဿပမထေရ်မြတ်ကြီး၏ ဗျာဒိတ်တော်ကို ရရှိသော **အသောကမင်းတရားမြတ်၏** တရားအဆုံးအမ စာ



**၁** အသောက၏ ကျောက်တိုင် ထိပ်ညွန့်မှ ကျောက်ဆစ်နွားရုပ်

တော်ဖြင့် ရာပေါင်းများစွာသော ကာလပတ်လုံး ရံခါတစ်ဆစ် မဖြစ်ပေါ်ဘူးသော တရားတော်ကို ကျင့်ဆောင်ခြင်းအခွင့်ကြီးမှာ ယခုအခါ တိုးတက် ပြန့်ပွားဆဲရှိလေသည်။

သတ္တဝါတို့ကိုမသတ်ဖြတ်ခြင်း၊ ထင်ရှားဖြစ်သော သတ္တဝါတို့ကို မညှဉ်းဆဲ မနှိပ်စက်ခြင်း၊ မိခင်ဖခင် ကျေးဇူးရှင်တို့၏စကားကို နားထောင် လိုက်နာခြင်း၊ အသက်ဂုဏ်အားဖြင့် ကြီးမြတ်သူတို့ အဆုံးအမကို လိုက်နာကျင့်ဆောင်ခြင်း ဤသို့ဆိုခဲ့ပြီးသော တရား ကျင့်ဝတ်တို့ကိုလည်းကောင်း၊ ဤမှတစ်ပါး မြောက် မြားစွာသော တရားကျင့်ဝတ်တို့ကို လည်းကောင်း၊ ဤသို့အားဖြင့် တရားကျင့်ဝတ်တို့ကို တိုးတက်ပွားစည် အောင် ကျင့်ဆောင်လိုက်နာကြလျှင် အနာရောဂါ ကင်း၍ ကျန်းမာခြင်း၊ ဥစ္စာပစ္စည်း တိုးတက်ခြင်း စသည်ဖြင့် ကြီးပွား တိုးတက်ကြရလိမ့်သတည်း။ ဤ သည်ကား မင်းတကာတို့ ချစ်ကြည်လေးစားအပ်၍ ပိယဒဿီဟု ဂုဏ်ချီးခတ်နှိပ် အရှင်မဟာကဿပမထေရ် မြတ် ဗျာဒိတ်တော်ကို ခံယူရရှိသော အသောကမင်း တရားမြတ်ကြီး၏ တရားကျင့်ဝတ်များဖြစ်၏။

မင်းတကာတို့ချစ်ကြည်လေးစားအပ်၍ ပိယဒဿီ ဟု ဂုဏ်ချီးခတ်နှိပ် အရှင်မဟာကဿပ မထေရ်မြတ်၏ ဗျာဒိတ်တော်ကို ခံယူရရှိတော်မူသော အသောက မင်းတရားမြတ်ကြီး၏ သားတော်အစဉ်၊ မြေးတော် အဆက်၊ မြစ်တော်အညွန့်တို့သည်လည်း (ငါမင်း တရား၏) ဤတရား ကျင့်ဝတ်များကို ကျင့်ဆောင်ဆင့် ပွားကြစေကုန်သတည်း။ ဤ ငါ၏ တိုင်းပြည် အလုံး သည် ကမ္ဘာအားလုံး အာယုကပ်ဆုံးသည့်တိုင်အောင် တရား ကျင့်ဆောင်၍ သီလ၌လည်း တည်ကြစေ ကုန်သတည်း။ ဤငါမင်းတရား၏ တရားကျင့်ဝတ် တို့ကို အဖန်ဖန်ဟောကြားညွှန်ပြဆုံးမကြစေသတည်း။ ဤသို့တရားကျင့်ဝတ်တို့ကို ဆုံးမ ကန့်မြစ်ခြင်းသည်သာ လျှင် ပစ္စုပ္ပန်တမလွန်၌ တိုးတက်ပြီးပွားကြောင်းဖြစ်၍ မြင့်မြတ်သော မင်းတို့ကိစ္စ ဖြစ်သတည်း။

(ဤလောက၌) အကျင့် သီလ မတည်ရှိသောသူ အား တရားကျင့်ဝတ်မျှပင်မရှိနိုင်ချေ။ ထိုသို့ဖြစ်ရကား ဤဆိုခဲ့ပြီး တရားတော် တည်ထောင်ရေး ကိစ္စကြီး၌ တိုးတက်အားထုတ် မဆုတ်မယုတ် မလျော့ပေါ့ခြင်း သည် ပစ္စုပ္ပန်တမလွန်၌ တိုးတက် ကြီးပွားဖွယ်ဖြစ်၍ ကောင်းမွန်လှလေသတည်း။ ဤသို့သော တရားအကျင့် ဖြင့် ဤမျှသော တိုးပွားခွင့်အလို့ငှာသာလျှင်ဤတရား စာတော်ကို ရေးသား တည်ထားခဲ့သတည်း။ ဤဆို ခဲ့သော စီးပွားမျှော်လင့် တရားကျင့်ရေး ကိစ္စကြီး၏ ကြီးပွားတိုးတက်ရေးကိုသာ အားထုတ် ကြိုးပမ်းကြ ကုန်စေပေသေး၊ ထိုသို့မဟုတ် ဆုတ်ယုတ်ပျက်ပြားရန် မနှစ်ခြိုက်ပဲဖြစ်ကြကုန်စေပေသေး၊ အဘိသိက် သွန်း တော်မူ၍ တစ်ဆယ့် နှစ်နှစ် မြောက် ရှိသောအခါ မင်းတကာတို့ချစ်ကြည်လေးစားအပ်၍ ပိယဒဿီ ဂုဏ်ချီး ခတ်နှိပ်၊ အရှင်မဟာကဿပမထေရ်မြတ်၏ ဗျာဒိတ် တော်ကို ခံယူရရှိသော အသောကမင်းတရားမြတ် သည် ဤတရားစာတော်ကို ရေးသား တည်ထားစေ အပ်သတည်း။ ။

(အသျှင်အာဒိစ္စဝံသ၏ ဝေလမင်းသား ဆုငွေ ၁၀၀၀-ဘျပ်ရ အသောကကျောက် စာမြန်မာပြန်မှ)

**ဦးခင်မောင်ထွေး (ဆိပ်ကမ်း)**

# ဗြဟ္မာ့ပြည်သို့ကြွသွားနိုင်ခဲ့သော ဣဒ္ဓိပါဒတန်ခိုး



## ဗြဟ္မလောက

ဣဒ္ဓိပါဒအဘိညာဉ်၏ အစွမ်းသတ္တိများကို ဖော်ပြရာ၌ 'ယာဝဗြဟ္မ လောကာပိ ကာယေန ဝသံဝတ္တေတိ' ဟူသော ဟောကြားချက် တစ်ရပ်လည်း ပါရှိသည်။ ထိုဟောကြားချက်ကိုတိုက်ရိုက် မြန်မာပြန်လျှင်—'ဣဒ္ဓိ-ဝိဓ တန်ခိုးရှင်သည် ဗြဟ္မာ့ပြည် တိုင်အောင်လည်း ကိုယ်ဖြင့် မိမိအလိုကို ဖြစ်စေ၏' ဟူ၍ ပြန်ဆို ရမည် ဖြစ်ပါသည်။

အဆက်ပါဟောကြားချက်၌ ဣဒ္ဓိဝိဓ တန်ခိုးရှင်သည် အလွန်ဝေးလံ မြင့်မားသော ဗြဟ္မာ့ပြည်သို့ပင် မိမိအ ပိုရှိသလို ကိုယ်တိုင်ကိုယ်ကျ ကြွသွားရောက်နိုင်သည်—ဟူသော အနက်အဓိပ္ပာယ်ပါဝင်သက်ရောက် လျက်ရှိပါသည်။

သုံးဆယ့်တစ်ဘုံဟု ဆိုအပ်သော ဩကာသ လောက၌ ကာမလောက၊ ရူပလောကနှင့် အရူပ လောကဟူ၍ လောကသုံးရပ် ရှိပါသည်။ ထိုတွင် ကာမလောကဟူသည် အပါယ်လေးဘုံ၊ လူ့ဘုံနှင့် နတ်ပြည်ခြောက်ထပ်တို့ ဖြစ်ပါသည်။

နတ်ပြည်ခြောက်ထပ်တို့၏အထက်တွင် ရူပလောက ဟု ခေါ်သော ရူပဗြဟ္မာ့ဘုံ (၁၆) ဘုံ ရှိပါသည်။ ထိုရူပဗြဟ္မာတို့မှာ လူတို့ကဲ့သို့ ရုပ်ခန္ဓာ ထင်ရှား ရှိသောသတ္တဝါများပင်ဖြစ်ပါသည်။သို့ရာတွင် သူတို့၏ ကိုယ်ခန္ဓာမှာ အလွန်နူးညံ့သိမ်မွေ့သော ရုပ်ကလာပ်

တို့ဖြင့် ဖွဲ့စည်း တည်ဆောက် ထားသော ကိုယ်ခန္ဓာ ဖြစ်ပါသည်။ ထို့ကြောင့် ရူပဗြဟ္မာတို့၏ ပကတိ ရုပ်ခန္ဓာကို လူသားများကိုမဆိုထားဘိ၊ နတ်ပြည် ခြောက်ထပ်မှ နတ်တို့ပင် မမြင်နိုင်ကြပေ။ လူတော့၊ နတ်တွေ မြင်နိုင်အောင် ဗြဟ္မာတို့က ရုန့်ရင်း ကြမ်းတမ်းသော ကိုယ်ခန္ဓာကို အထူးဖန်ဆင်း၍ ပြမှသာလျှင် လူတွေ နတ်တွေက မြင်နိုင်ကြပေသည်။

ထိုရူပဗြဟ္မာတို့မှာ အာရုံ ငါးပါးတို့တွင် အမြင်အာရုံ, အကြားအာရုံတို့ကို ခံစားနိုင်သည့် စက္ခုပသာဒနှင့် သောတပသာဒတို့သာ ပါရှိသည်၊ ဃာနပသာဒ၊ ဇိဝှါပသာဒနှင့် ကာယပသာဒတို့ကား မပါရှိချေ။ ထို့ကြောင့် လူတို့ကဲ့သို့ ဂန္ဓာရုံ၊ ရသာရုံ၊ ဖောဋ္ဌဗ္ဗာရုံတို့ကိုခံစားမှုမရှိ။ အစာ အာဟာရ စားသောက်ရန်လည်းမလိုချေ။ စင်စစ်အားဖြင့် ရူပဗြဟ္မာတို့သည် ကာမဂုဏ်အာရုံတို့နှင့် ကင်းကွာလျက် ဈာန်သမာပတ်ဖြင့်သာ အစဉ်ပျော်မွေ့နေသော ပုဂ္ဂိုလ်များ ဖြစ်ပေသည်။

ရူပဗြဟ္မာ့ဘုံ (၁၆) ဘုံတို့၏ အထက်၌ အရူပလောကခေါ် အရူပ ဗြဟ္မာဘုံ (၄)ဘုံ ရှိပါသည်။ အရူပဗြဟ္မာတို့ကား ရုပ်ခန္ဓာ လုံးဝမရှိ၊ နာမ်ခန္ဓာ သက်သက်သာ ရှိသော သတ္တဝါများ ဖြစ်ပါသည်။ ထို့ကြောင့်အရူပဗြဟ္မာ့ဘုံဆိုသည်မှာလည်း ဘုံဗိမာန် အဆောက်အအုံများထင်ရှားမရှိသော 'နာမ်လောက' မျှသာဖြစ်ကြောင်း မှတ်သားအပ်ပါသည်။

ကုဒ္ဒိဝိဓ တန်ခိုး ရှင်သည် ဗြဟ္မာ့ပြည်သို့ပင် ကြွသွားနိုင်သည်ဆိုရာ၌ ရုပ်ခန္ဓာ ထင်ရှားရှိသော ရူပဗြဟ္မာလောကသို့ ကြွသွားခြင်းကို ဆိုလိုပါသည်။ ရုပ်ခန္ဓာ ထင်ရှားမရှိသော အရူပလောကသို့ကား ကြွသွားရန် အကြောင်းမရှိပါ။

လူ့ပြည်, နတ်ပြည် ခြောက်ထပ်နှင့် ဗြဟ္မာ့ပြည် နှစ်ဆယ်တို့ကား တစ်ခုနှင့် တစ်ခု ယူဇနာပေါင်း (၄၂၀၀၀)စီ ကွာလှမ်းသည်ဟု ကျမ်းဂန်တို့၌ အဆို ရှိပါသည်။ ထိုအဆိုအရ လူ့ပြည်နှင့် ဗြဟ္မာ လောကတို့သည် မည်မျှဝေးကွာကြောင်း စာဖတ်သူတို့ တွက်ဆကြည့်နိုင်ပါသည်။

## ဗြဟ္မာ့လောကသို့ကြွသွားပုံ

ကုဒ္ဓိဝိဓတန်ခိုးရှင်သည် ထိုဗြဟ္မာလောကတစ်ခုခုသို့ ကြွသွားရာ၌ ထင်ရှား မြင်ရသောကိုယ်ဖြင့် ခပ်ဖြည်းဖြည်းသွားလိုလျှင်လည်း သွားနိုင်သည်။ ထင်ရှားမမြင်ရသောကိုယ်ဖြင့် မြန်မြန်သွားလိုလျှင်လည်း သွားနိုင်သည်။

ထင်ရှားမြင်ရသောကိုယ်ဖြင့် သွားလိုသော ပုဂ္ဂိုလ်သည် ပထဝီကသိုဏ်းဖြင့် ကောင်းကင်၌ မြေကြီးလမ်း ဖန်ဆင်းပြီး ထိုမြေလမ်းဖြင့် ခြေလျင်လည်း သွားနိုင်သည်။ ဝါယော ကသိုဏ်းဖြင့် လေကို မိမိလိုသလို တိုက်ခတ်စေပြီး ဝါဂွမ်းစိုင်ကဲ့သို့ ပေါ့ပါးစွာ လေအဟုန်ဖြင့်လိုက်ပါလျက်လည်း သွားနိုင်သည်။ အဘိညာဉ်စိတ်ဖြင့် မိမိကိုယ်ကိုလဲ မှို ကဲ့သို့ ပေါ့ပါးအောင် အဓိဋ္ဌာန်ပြုပြီး အဓိဋ္ဌာန်ဟုန်ဖြင့်လည်း သွားနိုင်သည်။ လေးသမားကပစ်လွှတ်လိုက်သောမြားတံသည်ပစ်လွှတ်အပ်သော အဟုန်ဖြင့် လိုရာအရပ်သို့ ရောက်သွားသကဲ့သို့ ထို အတူတန်ခိုးရှင်သည် ကုဒ္ဓိဝိဓ အဘိညာဉ်စိတ်ဖြင့် မိမိကိုယ်ကို လိုရာအရပ်သို့ ချက်ချင်းရောက်သွားအောင် အဓိဋ္ဌာန် ပြုနိုင်ပါသည်။

ထင်ရှား မမြင်ရသောကိုယ်ဖြင့် ဗြဟ္မာ့လောကသို့ သွားလိုသောတန်ခိုးရှင်သည်ကား မိမိလိုရာအရပ်သို့ ရောက်စေရန် အဘိညာဉ်စိတ်ဖြင့် အဓိဋ္ဌာန်ပြုလိုက်ပါက ထိုအဓိဋ္ဌာန်ပြုသောစိတ်၏ အခြားမဲ့၌ပင် လိုရာအရပ်သို့ရောက်သွား၏။ လေးလံသော ကိုယ်ခန္ဓာသည် အဘိညာဉ်စိတ်၏ အစွမ်းအားဖြင့် လဲဝါဂွမ်းကဲ့သို့ ပေါ့ပါးလျက် စိတ်ဆောင်ရာသို့ လိုက်ပါသွားခြင်းပင် ဖြစ်၏။

## ကွေးသောလက်ကိုဆန့်သကဲ့သို့

မြတ်စွာဘုရားသည်ဥက္ကဋ္ဌမြို့အနီးရှိ သုဘဂ တောအုပ်၌ သီတင်းသုံးနေစဉ် ဗြဟ္မာလောကမှ ဗက အမည်ရှိသောဗြဟ္မာကြီးအား ဖောက်ပြန် လွဲမှားသောအယူ ဖြစ်ပေါ်နေသောကြောင့် ထိုဗြဟ္မာကြီးကို ဆုံးမရန် ဗြဟ္မာလောကသို့ ကြွသွားတော်မူခဲ့သည်။ ဗြဟ္မာလောကသို့ ကြွသွားခဲ့ပုံကို ဗုဒ္ဓက ရဟန်းတို့အား အောက်ပါအတိုင်းပြန်လည်မိန့်ကြားခဲ့ပါသည်။



စာမျက်နှာ(၈

# တင်အောင်မြင့်

## မြေအန္တရာယ်ကိုကြောက်သော မဟာဂန္ဓာရုံဆရာတော်

ဘာသာဋီကာကျမ်းပြုအကျော် အမရပူရမြို့ မဟာဂန္ဓာရုံဆရာတော် လောင်းလျာ အရှင်ဇနကသည် ပခုက္ကူ အလယ်တိုက်ကြီးတွင် စာချဖြစ်ပြီးနောက် မန္တလေးမြို့တွင် သက္ကသီဟစာမေးပွဲဝင်ရန်အတွက် စစ်ကိုင်းသို့ ပြန်လာခဲ့သည်။ စစ်ကိုင်းတောင်ရိုးတွင် ခေတ္တနေခိုက် ဟေမဝတချောင်မှ သီလရှင်များက ဆွမ်းစား လာပင့်ကြသည်။

ဟေမဝတချောင်မှ သီလရှင်များသည် အရုဏ်ဆွမ်း၊ နေ့ဆွမ်းဆက်ကပ်ပြီးနောက်၊ နောက်ရက် နောက်ရက်များ၌လည်း ဤကဲ့သို့ပင် ဆွမ်းစားကြွရန် လျှောက်ထားလာကြသည်။ သို့နှင့် ၃–ရက်လောက် ဆွမ်းစားကြွပြီးသောအခါ 'ဆန်းကျမ်း အဓိပ္ပာယ်' ပြောပြပေးရန် လျှောက်ထားလာကြသည်။ ဤတွင် အရှင်ဇနကသည် အားနာတတ်သူ ဖြစ်၍မငြင်းသာတော့ပဲထိုချောင်၌ ဆန်းကျမ်း၏ အဓိပ္ပာယ်ကိုပြောပြပေးခဲ့ရလေသည်။

ထို့နောက် သာဓာဂီရိချောင်မှ သီလရှင်များကလည်း အရှင်ဇနကကို သူတို့ ချောင်တွင် ဆွမ်းပင့်ကပ်ပြီးနောက် ''အလင်္ကာသဘော ပြောပေးပါဦး'' ဟူ၍ လျှောက်ထားလာကြပြန်ပါသည်။ ထို့ကြောင့် အရှင်ဇနကသည် ယင်းချောင်၌ အလင်္ကာသဘောကို ပြောပေးရပြန်သည်။ ထိုစဉ်က အရှင်ဇနက၏ သက်တော်မှာ ၂၆–နှစ်လောက်သာ ရှိသေး၍ စာလိုက်သူ စာနာသူ သီလရှင် အများစုမှာလည်း ငယ်ရွယ်နုပျိုသူများဖြစ်ကြသည်။ 'တဘာဝသံသရာကျမ်း'လာအတိုင်း ဖော်ပြရသော် ''စာချသူ စာပြောသူကလည်း ထတုန်း ကြွတုန်း၊ စာလိုက်သူ စာနာသူများကလည်း လှတုန်း ပတုန်း'' အရွယ်များပေတည်း။




ဤသို့ အရှင်ဇနက ဟိုချောင်ကူး၍ စာပြလိုက် စာပြောလိုက်၊ သည်ချောင်ကူး၍ စာချလိုက်၊ စာဟောလိုက် လုပ်နေသည်ကို အချို့က မျက်စိအမြင်မရှင်း ဖြစ်ကြဟန်တူသည်။ ရက်အတန်ကြာသောအခါ ထိုသတင်းမှာ စစ်ကိုင်းတောင်ရိုး ဇေတဝန်ဆရာတော်ဘုရားကြီးနားသို့ ပေါက်ကြားသွားသည်။ တစ်နေ့တွင် ဇေတဝန်ဆရာတော်ဘုရားကြီးနှင့် အရှင်ဇနကတို့ဆုံမိကြရာ ဇေတဝန်ဆရာတော်ဘုရားကြီးက အောက်ပါအတိုင်း မိန့်ကြားတော်မူသည်။

ဆရာတော်ကြီး။ ။မောင်ဇနက, မင်း....သီလရှင်ကလေးတွေကို စာချပေးနေဆို။

အရှင်ဇနက ။ ။မှန်ပါအရှင်ဘုရား။

ဆရာတော်ကြီး။ ။အေးဗျာ၊ တို့တစ်ခုပြောချင်တယ်။

အရှင်ဇနက ။ ။မှန်ပါအမိန့်ရှိပါဘုရား။

ဆရာတော်ကြီး ။ ။တို့နေတဲ့ ချောင်နားမှာ တစ်ခါတုန်းက တောကြက်၂-အုပ် လာဆုံကြတယ်။

အရှင်ဇနက ။ ။မှန်ပါအရှင်ဘုရား။

ဆရာတော်ကြီး။ ဒီတော့ ဟိုဘက် ခေါင်းဆောင်၊ဒီဘက်ခေါင်းဆောင် ကြက်ဖချင်း ခွပ်ကြဘာပေါ့။

အရှင်ဇနက ။ ။မှန်ပါ ခွပ်တတ်ကြပါတယ်ဘုရား။

ဆရာတော်ကြီး။ ။အဲလိုခွပ်ကြတော့ ကြက်မတွေက ဝိုင်းကြည့်နေကြတယ်ကွယ့်။ မကူကြဘူး။

**အရှင်ဇနက ။** ။မှန်ပါအရှင်ဘုရား။

**ဆရာတော်ကြီး။** ။အဲ့လိုနဲ့ကြာတော့ဒဏ်ရာဒဏ်ချက် တွေလဲထိ၊ မောလဲ့ မောတော့ ကြက်ဖတစ်ကောင်ကထွက်ပြေးရော။

**အရှင်ဇနက ။** ။မှန်ပါအရှင်ဘုရား၊ ရှုံးတာကိုး။

**ဆရာတော်ကြီး။** ။ဒီလိုထွက်ပြေးတော့ ရှုံးတဲ့ဘက်က ကြက်မတွေဟာ ကိုယ့်ခေါင်းဆောင်ရှိရာ ရှုံးတဲ့ ကြက်ဖနောက်ကို လိုက် ပြေးကြမလားအောက်မေ့တယ်၊ မဟုတ်ဘူးဗျာ၊နိုင်တဲ့ကြက်ဖနောက်ကို ပေါင်းပြီး ကြက်မ ၂-အုပ်လုံး လိုက်သွားကြလေရဲ့၊အေး....အဲ့ဒါလိုပဲ၊ မင်းလဲ နိုင်အောင်သာ ခွပ်မယ်ကြံရော့မောင်ရေ့၊ ရှုံးရင်တော့ မင်းနောက်တစ်ကောင်တစ်မြီးမှ ပါမှာမဟုတ်ဘူး။

ဇေတဝန်ဆရာတော်ဘုရားကြီး၏ ဆုံးမစကားကို ကြားနာရသော အရှင်ဇနကမှာ ရှက်လွန်းလှသဖြင့် အသားများပင် နီရဲပြီး ထူပူသွားခဲ့ရလေသည်။

အရှင်ဇနကသည် ဇေတဝန်ဆရာတော်ဘုရားကြီး၏ အဆုံးအမကို ဦးထိပ်ပန်ဆင်လျက် ထိန်းချုပ်နိုင်ခဲ့သဖြင့် မည်သည့်ပြဿနာမှ မပေါ်ပေါက်ခဲ့ချေ။ ထို့နောက်တွင်မူ သင်္ကျသီဟစာမေးပွဲ ဖြေဆိုရန်အတွက် မန္တလေးသို့ပြန်ခဲ့ရသဖြင့်ဟေမဝတချောင်နှင့် သာတာဂီရိချောင်တို့မှ သီလရှင်များအား စာချ, စာပြောရသောလုပ်ငန်းသည်း တစ်ခန်းရပ်ခဲ့ရလေတော့သည်။

ဤနေရာတွင် ဆရာတော် အရှင်ဇနကာဘိဝံသ၏ မိန်းမတို့နှင့်ပတ်သက်သော သဘောထားကို တင်ပြရန်လိုပေလိမ့်မည်။ ဆရာတော်သည် မာတုဂါမ များနှင့် ရင်းရင်းနှီးနှီး ဆက်ဆံရသည့် အခါတိုင်း သဋ္ဌာ-ယတနသံယုတ်လာ အာသီဝိသဝဂ်၊ အာသီဝိသောပမသုတ်ကို သတိရလေ့ရှိသည်၊ မိန်းမတို့၏ အဆိပ်ပြင်းထန်ပုံကို ထိုသုတ်လာ မြွေ ၄-မျိုးနှင့် ဥပမာ ခိုင်းနှိုင်းကြည့်လေ့ရှိသည်။

ဆရာတော်စာချဘုန်းကြီးဘဝတွင် ပခုက္ကူမြို့ပထမမဟာဝိသုဘာရာမ ကျောင်းတိုက်ကြီး အတွင်းရှိဓမ္မမဥ္ဇူ ကျောင်းကလေး၌ နေရသည်။ တစ်ခုသော သီတင်းကျွတ်သဘင် ကျောင်းတိုက်ကြီး တစ်ခုလုံး မီးများ ထွန်းညှိထားရာ ဓမ္မမဥ္ဇူ ကျောင်းကလေးမှာ မီးများ ထိန်လင်းနေသည်။ ထိုအချိန်တွင် အခြား သီတင်းသုံးဖော်ရဟန်းတော်များ သီဟိုဠ်ရှင် ဘုရားသို့ သွားနေကြသဖြင့် ဆရာတော် တစ်ပါးတည်း ကျန်ရစ်ခဲ့သည်။ ဆရာတော်သည် ကျောင်းရှေ့မြေကွက်လပ်တွင် မက်လက်ကုလားထိုင်တစ်လုံးနှင့် ထိုင်နေသည်။

ထိုစဉ် ကျောင်းဒကာ ကျောင်းအစ်မ၏ သမီးများသည် ကျောင်းတိုက်ကြီးကို လှည့်လည် ကြည့်ရှုယင်း ဆရာတော်၏အနီးသို့ ရောက်ရှိ လာကြသည်။ ဆရာတော်သည် သူတို့ကိုလှည့်၍ပင်မကြည့်ချေ။ သို့သော် တစ်ကိုယ်လုံး ကြက်သီးမွေးညင်းတွေ ထလာသည်။ ထိုအခါဆရာတော်သည် "ငါဟာ သူတို့ကိုလဲမကြည့်၊ သူတို့နဲ့ ပတ်သက်ပြီးတော့လဲ ဘာမှ မစဉ်းစားပဲနဲ့၊ အမျိုးသမီး မှန်းသိရုံနဲ့ ကြက်သီး ထရတယ် ဆိုတော့၊ သူတို့ရဲ့အဆိပ်ဟာ အတော်ပြင်းထန်ပါကလား"ဟု စဉ်းစားမိသည်။ ရှေးရှေးက ဘုရားအလောင်းတော်ကြီးများပင်လျှင် မ, အတွက်ကြောင့် အရှက်ကွဲအကျိုးနည်းခဲ့ရပုံတို့ကို ဆက်စပ် တွေးတောနေမိသည်။

မိန်းမတို့၏အဆိပ်ပြင်းထန်ပုံသည် အာသီဝိသောပမသုတ်လာမြွေ ၄-မျိုးနှင့်တူလှသည်။ယင်းမြွေ၄-မျိုးမှာ-(၁) ဒိဋ္ဌဝိသမြွေ=ထိုမြွေနဂါး၏ စူးစူး စိုက်စိုက် ကြည့်ခြင်း ခံရသူသည် အကြည့်ခံရရုံနှင့် အဆိပ်တက်စေနိုင်သည်၊ (၂) ဖုဋ္ဌဝိသမြွေ=ထိုမြွေနဂါး၏ အထိခံရသူမှာ တစ်ကိုယ်လုံး အဆိပ်များ ပျံ့နှံ့စေသည်၊ (၃) ဝါတဝိသမြွေ=ထိုမြွေနဂါး၏ နှာခေါင်းလေဖြင့် အမှုတ်ခံရလျှင် ဖွဲပြာကဲ့သို့ ဖြစ်စေနိုင်သည်၊ (၄) ဒဋ္ဌဝိသမြွေ=ထိုမြွေနဂါး၏အကိုက်ခံရသူမှာ ထိုနေရာ၌ပင် လဲ၍ သေစေနိုင်သည်။

အထက်ပါမြွေ ၄-မျိုးကဲ့သို့ပင် (၁) မိန်းမပျို၏ အကြည့်ခံရရုံနှင့် အဆိပ်တက်သကဲ့သို့ ရင်ထဲ၌ တင်မျိုးတစ်ဖုံဖြစ်ပေါ်တတ်ခြင်း၊ (၂) မိန်းမပျို၏ အထိ ခံရသူမှာလည်း တစ်ကိုယ်လုံး အဆိပ်ပျံ့နှံ့သကဲ့သို့ ရှိန်းဖိန်းသွားနိုင်ခြင်း၊ (၃) မိန်းမပျို၏ နှာခေါင်းလေအမှုတ်ခံရသူမှာလည်း တစ်ကိုယ်လုံး အဆိပ်တွေ ပျံ့သကဲ့သို့ မနေတတ် မထိုင်တတ်ဖြစ်တတ်ခြင်း၊ (၄) မိန်းမပျို၏ ကာမဂုဏ်မေထုန်အကိုက်ခံရသူမှာလည်း တစ်ကိုယ်လုံး အဆိပ်တက်ကာ မူးမေ့သွားစေနိုင်ခြင်းတို့ဖြစ်သည်။

ထိုသို့သော အဆိပ်မျိုး အမိမခံရအောင်ရှောင်ကြဉ် ရမည်ဖြစ်သည်။ စင်စစ် သူတို့(မိန်းမ)မှာအပုပ်ကောင်

ရုပ်ဆောင်နေကြသူများ ဖြစ်သည်။ ထို့ကြောင့်အသုဘဘာဝနာဘွဲ့များထားလျှင် ထိုအဆိပ်မျိုး မတက်နိုင်တော့ပေ။ သို့ဖြစ်၍ အဆိပ်ကိုကြောက်လျှင် အသုဘဘာဝနာဆေးကို ကိုယ်ခံအဖြစ်သုံးစွဲဖို့လိုအပ်လှသည်။ ဤသဘောကိုရည်ရွယ်၍—

''ကြည့်ရှုမြင်ရုံ အဆိပ်တက်သမို့၊
သိပ်ခက်သဟဲ့ ကြည့်ဖို့ကို၊
စိတ်ပျက်သကွယ့် ထိဖို့ဆိုလျှင်၊
အမိတို့လို မြွေအမျိုး။
နှာခေါင်းလေနှင့် အမှုတ်ခံလျှင်၊
တမုဟုတ်အမြန်သေဇတ်ပါသတဲ့ဗျိုး။
ကိုက်များကိုက်က ငိုက်ဆိုက်နေပြီ၊
ကတိုက်ကရိုက်သေမည် အမှန်ဆုံး၊
မိုက်မိုက်မွေလီ ဉာဏ်သူခိုးဖြင့်
ကြံဆုံးကြံနှင့် အသင့်ရှောင်။
'အသုဘ'ခေါ် ဆေးတော်ကြီး၊
မနှေးဖော်ပြီး သုံးစွဲပါလေမောင်။
ငါတို့ဘုရား အလောင်းတော်တောင်ပင်၊
ကြောင်းမလျော်ပေါင် မိဖုရားနှင့်၊
ကြည့်မှားသဖြင့် အသင့်ဉာဏ်တွေခြယ်၊
အကျွင့်ချွန်တွေကွယ်။
မြွေအမျိုးကြောင့် တန်ခိုးပြယ်လျှင်
အမျိုးအနွယ်မှိန်တတ်ပါသတဲ့လေး''ဟူ၍ ရေးစပ်တော်မူခဲ့လေသည်။

မဟာဂန္ဓာရုံဆရာတော် လောင်းလျာ အရှင်ဇနကသည် ဇေတဝန်ဆရာတော်ကြီး၏ ဆုံးမဩဝါဒစကားကို နာခံ မှတ်သားလျက်၊ မိမိစာချ ဘုန်းကြီးဘဝ ပခုက္ကူတွင်နေစဉ်က တစ်ခုသော သီတင်းကျွတ်လ၏ ဖြစ်ရပ်ပေါ်မူတည်ကာ ရေးဖွဲ့ခဲ့သော တေးထပ်ကို ပြန်လည်၍ သတိရမိမည်ဖြစ်သည်။ ထိုသို့ သတိရမိရာမှ မြွေနှင့်တူလှသော မြွေကဲ့သို့ အန္တရာယ်ပေးတတ်သော မိန်းမတို့ကို ရှောင်ကြဉ်နိုင်ခဲ့ခြင်း ဖြစ်ပေလိမ့်မည်။

အကယ်၍သာ မဟာဂန္ဓာရုံ ဆရာတော်ဘုရားကြီးသည် ငယ်နုစဉ်က မြွေအန္တရာယ်ကို မကြောက်ခဲ့ပါမူ....။ ။

**တင်အောင်သွင်**

(ဆရာတော်ကြီး၏ကိုယ်တိုင်ရေး 'တဘဝသံသရာ' နှင့် ဦးသောသိတ၏'တဘဝသာသနာ' တို့ကို မှီငြမ်းပြုပါသည်။)





## သာသနာဝေဖြိုးလေးဆယ့်ကိုး

# ထီးချိုင့်နတ်ပိုး

ကောဇာသက္ကရာဇ် ၁၃၄၉-ခု နှစ်ကို သူရဇ္ဇဓာတ် အတွင်းသို့ နှစ်နှစ်မျှ သက်ဆင်း လာသော အချိန်ဟု ဗေဒဆရာများက ဆိုကြပါသည်။ ဗေဒ ဆရာတို့၏ အလို အားဖြင့် ၁၃၄၈-ခုနှစ် မတိုင်မီက ဤကမ္ဘာကြီးကို ပါပ ဓာတ်ကြီး အုပ်စီး၍ ထားသည်။ ပါပဓာတ်သည် ပညတ်အားဖြင့်လည်း ယုတ်မာသည်၊ သဘာဝအားဖြင့်လည်း လေမျိုးဖြစ်၍လှုပ်ရှားမှု များသည်။ ထို့ကြောင့် ပါပ၊ သူရဇ္ဇ၊ အမြိတ္တ၊ ကောလ ဟူကုန်သော ဓာတ်ကြီး လေးပါးတို့တွင် ပါပဓာတ်သည် အဆိုးရွားဆုံးဖြစ်သည်။ ပါပဓာတ် အဘွင်း သက်ဆင်းကျရောက်သော သတ္တဝါ များသည် မစင်တွင်း ကျသော သူကဲ့သို့ ပါပ ဓာတ်၏ အညစ်အကြေးများ စွန်းငြိ၍ ရန်လိုမှု၊ မာန်ထောင်မှု၊ လှုပ်ရှားမှု များပြားသည်။ သည်းခံမှု၊ နှိမ့်ချမှု၊ တည်ငြိမ်မှု နည်းပါးသည်။

ပါပဓာတ် ကုန်သောအခါ သူရဇ္ဇဓာတ် ဖြစ်ပွားလာသည်....။ သူရဇ္ဇ ဓာတ်ကား နေမျိုး ဖြစ်၍ ဓာတ် အား ဖြင့် တေဇော ဓာတ်တည်း။ တေဇသဒ္ဒါကား - ထက်မြက်ခြင်း၊ ထွန်းလင်း တောက်ပခြင်း၊ သည်းခံခြင်း၊ အစွမ်း အာနုဘော်ရှိခြင်းဟူသော အနက်တို့ကို ဟောပါသည်။ ထို့ကြောင့် ပါပ ဓာတ်တည်းဟူသော မှောင်အတွင်း မှ လွတ်ကင်းလာကုန်သောသတ္တဝါ တို့သည် သူရဇ္ဇဓာတ်တည်းဟူသော နေရောင်ခြည်နှင့် ထိတွေ့ရသဖြင့် သည်းခံခြင်း၊ ကိုယ်ချင်း စာနာခြင်း၊ ရဲရင့်ခြင်း၊ ပေါက်ရောက် အောင် မြင် ခြင်း တည်းဟူသော အကျိုးတရားများ တိုးပွားလာကြလေသည်။

ဗုဒ္ဓမြတ်စွာ သာသနာတော်သည်လည်း ၁၃၄၈-ခုနှစ်မှ စ၍ ယခင်ကထက် ဝေဖြိုးစည်ပင်လာပါသည်။ သာသနာတော် ဝေဖြိုး စည်ပင်လာသောကြောင့်သာသနာတော် ထွန်းလင်းသော မြန်မာနိုင်ငံတော်အရပ်ရပ်တွင် ကျောင်း ဆောက်ခြင်း၊ ဘုရားတည်ခြင်း၊



ပေးကမ်း စွန့်ကြဲခြင်း ဒါနတရား သည် တိုးပွား လာသည်။ သီလ စောင့်ရှောက် ထိန်းသိမ်းသူ များ ပြားလာသည်။ သာသနာ့ ရိပ်သာ တို့၌ ဘာဝနာအလုပ် အားထုတ် ကြသော ပုဂ္ဂိုလ်များ ပို့ကဲလာ သည်၊ ကုသိုလ်တရား ပွားများ ကြသူ ဤမျှ ပိုကဲ လာခြင်းသည် မကောင်းသော ပါပဓာတ် အငွေ့ အသက်မှ လွတ်ကင်း လာသော ကြောင့်ဟု ယူဆဖွယ် ဖြစ်လေ သည်။

ဗုဒ္ဓမြတ်စွာ သာသနာတော် ဘက်မှလည်း ထူးကဲသော အရည် အသွေးများကို မြင်တွေ့ကြရသည်။ ရဟန္တာဟုယူဆရသော ဆရာတော် ကြီးများကို ဖူးတွေ့ ကြရသည်။ မဟာဝိဇယကဲ့သို့သော သမိုင်းဝင် စေတီတော်ကြီးများ ထွန်းပေါ်၍ လာသည်။ ဤသို့သော သာသနာ ဘက်မှ အံ့ဖွယ် သူရဲတို့သည် တစ် ပြည်လုံး အတိုင်းအတာနှင့် မဆို ထားဘိ၊ တောနယ်မျှ ဖြစ်သော အကျွန်ုပ်တို့ ထီးချိုင့်မြို့နယ်အတွင်း ၌ပင် မကြာခဏဖြစ်ပွားလာသည် ကို မြင်တွေ့နေရသည်။

## မှိုသူယောင်ဘုရား

ထီးချိုင့် မြို့ နယ်၊ အ လောင်း ကန်တောကျောင်းတွင် ဗုဒ္ဓရုပ်ပွား တော်သဏ္ဍာန် မှိုပွင့်သည်။ ထိုမှို သည် စားကောင်းသော မှိုနှံမျိုး မဟုတ်ဘဲပိတောက်ပင်မှထွက်သော မှိုမာမျိုးဖြစ်၍ ရိုန္ဓမ်းခြင်း မရှိပါ ချေ။ မှိုလ္လင် အောက်ပိုင်းမှ ဗုဒ္ဓ မဏိတော်အထိ နှစ်လက်မခွဲ ရှိပါ သည်။ ထိုမှိုသူယောင်ဘွဲ့ကို တည် တောဆရာတော်က....

"ဗုဒ္ဓလိုလို.... ရက္ခ သူယောင် မှို က၊ သွင်နကိုယ် ခြား။ ။မြေ အပြင်၊ ရွှေပလ္လင်စံလျက်၊ မြန်မျက် ကို သက်သေညွှန်းသည့်နှယ်၊ သွန်း ရွှေရုပ်အလား။"

ဟုဒွေးချိုးကဗျာ ရေးစပ်၍ မှတ် တမ်းတင်ခဲ့ပါသည်။

ဓာတ်ပုံဆရာ ကိုစိုးညွန့်ကလည်း ရောင်စုံဓာတ်ပုံရိုက်၍ မှတ်တမ်းတင် ထားပါသည်။



မန်လည်မြို့ တာဝတိံသာ မဟာစေတီတော်သို့ မျက်နှာလှည့်၍ ပွင့်သော အင်ကြင်း



ကျွန်းသားအနှစ်၌ ထင်နေသော သစ်တွင်း စေတီတော်၊ ထီးချိုင့်မြို့နယ်၊ မုခ်ဝရွာ

## ပေါက္ခရဧယမိုး

ထီးချိုင့်မြို့၏အနယ်ကုန်းမြင့်၌ ရွှေစည်းခုံ စေတီတော်ကြီး တည်ရှိပါသည်၊ ထိုစေတီတော်ကြီးကို မှန်သက်န်း ကပ်လှူအားရာ နှစ်ကာလ ရှည်ကြာ၍ မှန်အရောင်များ ပျက်ပြားသဖြင့် မှန်ဟောင်းကို ခွာ၍ မှန်သက်န်း အသစ် ကပ်လှူပြီး ၁၃၄၇-ခုနှစ်၊ တပေါင်းလဆန်း ၃-ရက်နေ့တွင် ရွှေထီးအထွဋ် တင်လှူပါသည်။ ရွှေထီးတော် တင်လှူဆဲအခွင် မိုးကြီးထစ်ချုန်းပြီး ရွာချပါသည်။ သို့သော်ထီးတင်ပွဲဆင်နွှဲနေသူများ မိုးရေ စွတ်စိုခြင်း မရှိကြပါ။ မိုးသည် ရွာချပြီးလျှင် ပြီးချင်း ရပ်တံ့ သွားပါသည်။ ထိုမိုးရွာခြင်းနှင့်စပ်၍လည်း ဆရာတော်က မှတ်တမ်းတင် တေးထပ် တစ်ပုဒ်ရေးထုတ်တော်မူခဲ့ပါသည်။ ၎င်းတေးထပ်ကို ဖော်ပြပါသည်။

တစ်ပေါက်ကျ
နှစ်ပေါက်ကျရယ်နှင့်၊
ကြောက်စရာ ထစ်ကာ....
ပေါက္ခရဝဿာငယ်
လွှတ်ရွာမည့်ဟန်ပျိုး။
ဝေဿန်မင်း ဆွေမျိုးအစုံတွင်
ဝေဖြိုးပုံ ဖျန်းဆွတ်သည့်မိုး။
တစ်သုံးလေး ရှစ်ကောဇာ
နှစ်ဝေါဟာ မညှိုး။
ရာသီမှာ မိန်မျိုးမို့
ထိန်ဖြိုးစ ရွှေ။ ။
သုံးရက်တွင် ညို့ဝေငြီးပါလို့
မြို့ရွှေထီး စိုင်းအုံညီညာ။
ရွှေစည်းခုံ မြတ်တာဂဝါကို
နတ် ဗြဟ္မာ ဟတ္ထာပင့်ပါလို့
ဆတ္တာမြင့် မြောက်ကြွအတင်
ပေါက္ခရ ထင်ထင်။
ဗြဟ္မာတစ်စု သာဓုလွှင်သည်
ဝလာထုတစ်ခွင်
ဟစ်ကြွေးညာလို့လေး။ ။

## သစ်တွင်းစေတီတော်

ထီးချိုင့် အနောက်ပြင် မဲဇာ မြစ်ရိုး၊ မုခ်ဝ ကျောင်း၌လည်း သစ်တွင်း စေတီတော် ပေါ်သဖြင့် ဗုဒ္ဓဘာသာဝင်အများ သွားရောက် ကြည်ညိုကြပါသည်။ သစ်တွင်း စေတီ ဆိုသည်မှာ သစ်ကို လွှဖြင့် ဖြတ်သောအခါ သစ် အတွင်း၌ စေတီတော်သဏ္ဍာန် အနှစ်ပေါ်နေခြင်းကို ဆိုပါသည်။

မုခ်ဝ သစ်တွင်း စေတီသည် ရန်ကုန်မြို့ ရွှေတိဂုံ စေတီတော်ပုံသဏ္ဍာန် ဖြစ်ပါသည်။ ရွှေတိဂုံ စေတီတော်၏အနီး၌ နောင်တော်ကြီးစေတီ တည်ရှိသကဲ့သို့ စေတီ တစ်ဆူ သဏ္ဍာန်လည်း ကပ်လျက် ပေါ်နေပါသေးသည်။

ထိုစေတီပုံပါသော သစ်ပြားကို လွှဖြင့်ဝိုက်လှီးပြီးလျှင် ရွှေကလပ်ထက် တင်ကာ မုခ်ဝ ကျောင်း၌ အပူဇော်ခံထားပါသည်၊

## သယံဇာတရုပ်ပွားတော်များ

ထီးချိုင့်မြို့ မြောက်ပြင် ထီးချိုင့်အင်းတော်သွား လမ်းမကြီးအနီး၌ စစ်ကဲကြမ်း အမည်တွင်သော ရှေးဟောင်း စေတီတော်ကြီး တစ်ဆူ ရှိပါသည်။ ထိုစေတီတော်ကိုအင်းဝမင်းခေါင်ကြီး (၇၆၃-၇၈၃)က တောင်သူ လယ်သမားများ မိုးဆုတောင်းရန်အတွက် သက္ကရာဇ် ၇၈၀-ပြည့်နှစ်တွင် မန်လည် နယ်စား စော်ဘွားငအောက်ါအားစေခိုင်းသဖြင့် စော်ဘွား ငအောက်ါကိုယ်စား လက်ယာစစ်ကဲ ကြီးကြပ်၍ တည်သော စေတီတော် ဖြစ်ပါသည်။

နှစ်ကာလ ရှည်ကြာ၍ ထိုစေတီတော်ကြီးပျက်စီးနေသည်ကို တည်တောဆရာတော်ကြီးမှူး၍ပြန်လည် ပြုပြင်ရန် စီမံပါသည်။ ၁၃၄၉-ခုနှစ်၊ ကဆုန်လဆန်း ၆-ရက်နေ့ ရွှေအုတ်ချရန် ကြေညာထားသည်၊ ရွှေအုတ်မချမီတန်ခူးလပြည့်ကျော်မှစ၍ တည်တောကျောင်း ဘုရားရှင်၏ပလ္လင်တော်ထက်သို့ ရုပ်ပွားတော်ငယ်များ အလို အလျောက် ကြွရောက်တော် မူလာကြပါသည်။

ထိုရုပ်ပွားတော်များ ပင့်ဆောင်လာသူကိုလည်း မေးမြန်း စုံစမ်း၍ မရပါ။ အားလုံး ရုပ်ပွားတော် (၁၂)ဆူရှိပါသည်။

ထိုသတင်းကို ကြားကြသော ဗုဒ္ဓဘာသာဝင်များ ပျားပန်းခပ်မျှ သွားရောက် ဖူးမြော်ကြပါသည်။

(ထိုရုပ်ပွားတော်များကို ရှုမဝ ဓာတ်ပုံတိုက်မှ အမှတ်တရ ဓာတ်ပုံ ရိုက်ကူးထားပါသည်။) ယခုအခါ ၎င်းရုပ်ပွားတော်များ စေတီတော်၌ ဌာပနာပြီးပါပြီ။



တကောင်းမြို့ဟောင်း
ငါးချောင်းဆောင့်ကျွန်း
မောင်လှအေး၊
မကြည်လေး တို့၏
ဖရဲခင်းမှ
စမပေါ်သော
ဖရဲသီးများပုံ



ဗုဒ္ဓပုံတော်နှင့်တူသော မှိုသူယောင် (ထီးချိုင့်မြို့နယ်)

## နေ့ညဥ့်မစဲ ရောင်ခြည်ပွဲ

ကဆုန် လဆုတ် ၆-ရက်နေ့၌ ထီးချိုင့်တွင်ငလျင်အနည်းငယ် တုန်လှုပ်ပါသည်။ လဆုတ် ၇-ရက်နေ့၊ နံနက်ရောင်းချရန်အတွက် အကြော်သည် ဒေါ်အောင်သည် နံနက်စောစောထ၍ ဘူးသီးကြော်နေပါသည်။ အကြော်ကြော်နေစဉ် ဆီအိုးကင်း အတွင်း ဝင်း လက် သော အလင်းရောင်ပေါ်လာသဖြင့် ဆီမှ မီးတောက်ရော့ သလော ဟု အိုးကင်း တွင်းကို ကြည့်လိုက်သည်။ အိုးကင်း၌ ဆီမှ မီးတောက်နေသည် မဟုတ်။ တစ်ဘက်မှ လာသော အလင်းရောင်မှုန်း သိ၍ အရောင်လာရာဘက်သို့ လှည့် ကြည့်လိုက်သည်။ ထီးချိုင့်မြို့ ချမ်းသာကြီး စူဠာမုနိစေတီတော်၏ထီးမှအရောင်များ ဖြာထွက်နေသည်ကိုမြင်သည်။ ဒေါ်အောင်သည် လက်အုပ်ချီရင်း 'ဟောဒီမှာ ဘုရားရောင်ခြည်တော် လွှတ်နေပါပြီ' ဟု အော်လိုက်သည်။ ဒေါ်အောင်၏ အော်သံ ကြောင့် လူအများ လာရောက် ဖူးမြော်ကြသည်။

ထိုနေ့မှစ၍ စူဠာမုနိဘုရားရှင်၏ ရောင်ခြည်တော်ပွဲကား မစဲတော့ပါချေ၊ နေ့ရောညဥ့်ပါ မပြတ်မပြတ် ရောင်ခြည် လွှတ်နေပါသည်။

လူသားများ ကြံဖန်၍ ပြုလုပ်လေသလား၊ နေရောင်၊ လရောင်ကြောင့် မှန် ကျောက်တို့၏အရောင်တောက်လေသလော ဟု ခေတ်မီသော လူကြီး၊ လူလတ်များ စိစစ်ကြည့်ကြသည်။ စေတီတော်မှပကတိ အရောင်တော်များ ကန့်မြူး ကြောင်း လက်တွေ့ သိကြသဖြင့် မယုံကြည်၍ စိစစ်သောပုဂ္ဂိုလ်များ အယုံကြီး ယုံကြည်ကာ စေတီတော်၏ ဝေယျာဝစ္စများကို အားပါးတစ်ထုတ် ပြုလုပ် ဆောင်ရွက်လျက် ရှိနေကြပါသည်။

ရောင်မြည်တော် ဖူးလိုသူများ နေ့ရောညဥ့်ပါစောင့်၍ ရောင်ခြည်တော်ဖူးကြသည်မှာ ပွဲတော်တမျှ စည်ကားခဲ့ပါသည်။

ထိုရောင်ခြည်တော်ဖူး ဗုဒ္ဓဘာသာဝင်တို့၏ အလှူတော် ငွေဖြင့် စေတီတော်၏ ထီးတော်ကို ရွှေအသစ်မွမ်းမံ၍ ၁၃၄၉-ခုနှစ်၊ တော်သလင်းလပြည့်နေ့တွင် ပင့်သံဃာ ၁၀၈-ပါး အခြံအရံဖြင့် ထီးတော်တင်လှူပွဲ၊ အနေကဇာတင်ပွဲ ဆင်နွှဲ ပြုလုပ်ကြပါသည်။

ဤသို့လျှင်သူရဇ္ဇမာတ်ဆန်းချိန်တွင် ပါပ အရောင် မှိန်၍ သူရိယ အရောင်ထိန်သောကြောင့် ထီးချိုင့်မြို့နယ် အတွင်း၌ပင်လျှင် ဤသို့သောအံ့ဖွယ်သူရဲများ ကြုံတွေ့ကြရပါသည်။

သူရဇ္ဇမာတ်၏စွမ်းအားကြောင့် ကမ္ဘာသူ၊ ကမ္ဘာသား သတ္တဝါများလည်း စိတ်သစ်လူသစ်ဖြစ်ကာ ပါပမာတ်၏ အခိုးအငွေ့ ဖြစ်သော ရန်လိုမှုများ၊ ငြိမ်းခြောက်မှုများ၊ ခေါင်းပါးမှုများ၊ ညှိုးငယ်မှုများ ကင်းပျောက်၍ ထွန်းတောက် တိုးတက်လာဖွယ်ရှိကြောင်း ရေးသားတင်ပြလိုက်ရပါသတည်း။ ။

ထီးချိုင့် နတ်စိုး

# သာသနာပိုင်နှုတ်ထွက်လျှာ

ဘုန်းနွယ်



ကုန်းဘောင်ဆက် မင်းများလက်ထက်သာသနာပိုင် ဆရာတော် တင်မြှောက်ခြင်းမှာ ဘုရင် ကိုယ်တိုင် ဘွဲ့တံဆိပ်ကပ်၍ တင်မြှောက်ခြင်းဖြစ်သည်။ သာသနာပိုင်ဆရာတော်သည် သာသနာရေး သာသနာမှုနှင့် ပတ်သက်သည့်ကိစ္စရပ်များကို မဟာဒါန်ဝန်မှတစ်ဆင့် အမိန့်တော်စာတမ်းများထုတ်ဆင့်ရသည်။ ဤသို့ ဆင့်ဆိုနိုင်သောအာဏာကြောင့်ပင် သာသနာပိုင် ဆရာတော်ဟု ခေါ်ခဲ့ခြင်းဖြစ်သည်။

သာသနာပိုင်သည် စာပေပရိယတ် နှံ့စပ်ကျွမ်းကျင်သည့် အရည်အချင်းရှိရသည့်အပြင်နန်းဘက်လာသော ဘုရင်နှင့် ပတ်သက် ယှက်နွယ်ခြင်းလည်း ရှိရသည်။

မှန်ပါသည်။ ကုန်းဘောင်မင်းများ လက်ထက်တွင် နေပြည်တော်၌ ပရိယတ် တတ်ကျွမ်းသော အကျော်အမော် ဆရာတော်အမြောက်အမြားရှိသည်။ကျမ်းပြုဆရာတော်တွေ များစွာ ရှိကြသည်။ သို့သော်လည်း ပရိယတ်တတ်ကျွမ်းသူတိုင်း သာသနာပိုင် မဖြစ်နိုင်။ ဘုရင်နှင့် ပတ်သက်သူများသာ သာသနာပိုင် အရာကို ရနိုင်ကြပေသည်။

ဘကြီးတော်မင်းတရားလက်ထက်တွင် စလင်းဆရာတော်ကို သာသနာပိုင် တင်မြှောက် ထားခဲ့သည်။ ဆရာတော်သည် သာသနာပိုင် အရည်အချင်း ရှိသူဖြစ်သည်။ သို့သော် သာယာဝတီမင်း နန်းတက်လာသောအခါတွင် စလင်းဆရာတော်မှာ သာသနာပိုင် အရာမှ လျှောကျသွားရသည်။ သဲအင်းဆရာတော် တက်လာသည်။ သာယာဝတီမင်းသားသည် ဘကြီးတော်မင်းတရား မကျန်းမာသဖြင့် ၁၁၉၉ ခု၊ ကဆုန်လဆုတ် ၁၂ ရက်နေ့တွင် နိုင်ငံအုပ်ချုပ် မင်းလုပ်ရသည်။ ထိုနှစ်နယုန်လဆန်း ၅ ရက်နေ့တွင် ရတနာပူရ မာန်အောင်ရတနာ သုဓမ္မာ ဇရပ်တော်၌ သဲအင်းဆရာတော် ဦးသုရိယအား သာသနာပိုင်ခန့်အပ်သည်။ နယုန်လဆန်း ၁၃ ရက် ဗုဒ္ဓဟူးနေ့ရောက်လျှင် စစ်ကိုင်းမြို့ စံနန်းတွင် တံဆိပ်ရုံ ၁၂ ခုနှင့်တကွ ဆရာတော်

အား 'သုရိယဝံသာဘိ သိရိပဝရာလင်္ကာရ ဓမ္မသေနာပတိ မဟာဓမ္မ ရာဇာဓိ ရာဇဂုရု' ဟူသော ဘွဲ့တံဆိပ်တော်ကို ဆက်ကပ်အပ်နှင်းခဲ့၏။

သဲအင်းဆရာတော်မှာသာယာဝတီမင်းသားမြို့စားဘဝကပင် ကိုးကွယ်ခြင်း ခံရသော ဆရာတော်ဖြစ်သည်။ ဆရာတော်ကား ပခန်းကြီးမြို့ကျေး (ရေစကြိုမြို့နယ်) သဲအင်းရွာ၌ ၁၁၂၅ ခု၊ နတ်တော်လဆန်း ၇ ရက်၊ သောကြာနေ့တွင် မွေးဖွားသူ ဖြစ်သည်။ ငယ်မည်ဦးကြောင်တည်း။ မိဘများမှာ ဘိုးအောင်ဇ နှင့် မယ်ဘုံတို့ဖြစ်ကြသည်။ မိဘများ၏ဇာတိမှာပခန်းမြို့ကျေး မြို့သာရွာမှ ဖြစ်ကြသည်။

သဲအင်း ဆရာတော်လောင်းသည် ငယ်စဉ်ကပင် အစ်ကိုရင်းအရှင်စန္ဒမထေရ်နှင့်အတူအင်းဝသို့ လိုက်ပါလာခဲ့သည်။ အင်းဝမြို့ရှိ ဘုံကျော်တိုက် စရစ်ဆရာတော်၊ မိုးထိတိုက်ထန်းတပင်ဆရာတော်တို့ထံ ဆည်းကပ်၍ပညာသင်သည်။ သာမဏေ ပြုပြီးလျှင် ပထမ ဗားကရာဆရာတော်ထံဆည်းကပ်သည်။ ၂၅နှစ်အရွယ်ရောက်မှ ဗားကရာဆရာတော်ကိုဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်ရောက်သည်။ ရဟန်းဖြစ်ပြီးလျှင် ဆရာတော်များစွာတို့ထံ၌ စာပေသင်ကြားပြန်သည်။

၁၁၆၁-ခုနှစ်တွင် မွေးဇာတိ သဲအင်းရွာသို့ ပြန်၍ စာပေပို့ချနေရာ ၁၁၈၁ ခုနှစ်တွင် သာယာဝတီမင်းသားက မြို့ဘော်သို့ပင့်ဆောင်ပြီး စန္ဒာမုနိဘုရားရှေ့ ရွှေစေတီတိုက်တွင်း ကျောင်းတော် ဆောက်၍ တင်လှူကိုးကွယ်ခဲ့သည်။ ၁၁၈၂ ခု၊ ဝါဆိုလဆန်း ၁၅ ရက်နေ့တွင် 'သဒ္ဓမ္မဝံသာဘိ သိရိပဝရမဟာဓမ္မ ရာဇာဓိ ရာဇဂုရု' ဘွဲ့တံဆိပ်ကပ်လှူသည်။

သာယာဝတီမင်းသားသည် မိမိ မင်းဖြစ်လာပြီးရက် အနည်းငယ်အတွင်း သဲအင်း ဆရာတော်အား သာသနာပိုင် ခန့်အပ်လိုက်ခြင်းဖြစ်သည်။ ဤတွင် ဒကာတော်မင်းဖြစ်၍ ဆရာတော်လည်း သာသနာပိုင် ဖြစ်ခဲ့ရပါသည်။ သို့သော်လည်း ဆရာတော်သည် သာသနာပိုင်အဖြစ်ဖြင့် ကြာမြင့်ရှည်မောစွာမနေခဲ့ရပေ။ ၂ နှစ်ကျော် မျှသာ နေရသည်။ ၁၂၀၁ ခု၊ သီတင်းကျွတ်လပြည့်ကျော် ၁၃ ရက်နေ့တွင် ပျံလွန်တော်မူပါသည်။

သာယာဝတီမင်းကိုးကွယ်သော သဲအင်းသာသနာပိုင် မရှိတော့ပြီဆိုလျှင် သာသနာပိုင်အသစ်တစ်ပါးကို ခန့်အပ်ရမည်ဖြစ်၏။ ဤတွင် နန်းတွင်းမှာ လျာထားသော သာသနာပိုင် ဆရာတော်နှစ်ပါး ပေါ်ပေါက်လာသည်၊ တစ်ပါးမှာ ဒုတိယ ဗားကရာ ဆရာတော် အရှင်ပညာဇောတဖြစ်၍ တစ်ပါးမှာ နတ်ရဲတောင် ဆရာတော် အရှင်ဥေယျ ဖြစ်သည်။ နှစ်ပါးလုံးမှာ သဲအင်းဆရာတော်၏ တပည့်ချည်း ဖြစ်သည်။

ဒုတိယ ဗားကရာဆရာတော်မှာ အိမ်ရှေ့ဥပရာဇာ ပုဂံမင်းသားကိုးကွယ်သော ဆရာတော်ဖြစ်ပြီး နတ်ရဲတောင် ဆရာတော်မှာ သမီးတော်ကြီး သိရိပဝရတိလောကရတနာ မင်္ဂလာဒေဝီက ကိုးကွယ်သည့် ဆရာတော်ဖြစ်သည်၊ ထိုသမီးတော်ကြီးသည် နောင်အခါတွင် မင်းတုန်းမင်း၏ တောင်နန်း မိဖုရားခေါင်ကြီး ဖြစ်မည့် စကြာဒေဝီလောင်းပင် ဖြစ်သည်။

အိမ်ရှေ့စံ ပုဂံမင်းကလည်း သူ့ ဆရာတော်ကို သာသနာပိုင် ခန့်ချင်သည်။ သမီးတော်ကြီးကလည်း သူ့ ဆရာတော်ကို ခန့်ချင်သည်။ မောင်နှမအရင်းချင်းသဘောထား မညီမမျှ ဖြစ်နေကြသည်။

ထိုအချိန်က သာသနာပိုင် ဖြစ်ထိုက်သူမှာ ဒုတိယ ဗားကရာ ဆရာတော်ဖြစ်၏။ နှစ်ပါးစလုံး သဲအင်း ဆရာတော်ကြီး၏ တပည့်ချည်းဖြစ်သည်။ ဗားကရာဆရာတော်က နတ်ရဲတောင်ဆရာတော်ထက် ၁၄ ဝါကြီးသည်။ နေပြည်တော် ဆရာတော်တို့ကလည်း ဗားကရာဆရာတော်ဘက်မှ အားပေးကောက်ခံသည်။ အိမ်ရှေ့စံမင်း၏ဆရာလည်းဖြစ်နေသည်။ သာသနာပိုင် ဖြစ်ရန် အဘက်ဘက်က ပြည့်စုံနေသည်။

ဤကိစ္စအတွက် အိမ်ရှေ့စံ ပုဂံမင်းကရော၊ သမီးတော်ကြီးကပါ မိမိတို့၏ ဆရာတော်ကိုသာ သာသနာပိုင် ခန့်ထားတော် မူပါမည့်အကြောင်း သာယာဝတီမင်းထံ အလု အယက် လျှောက်တင် ခဲ့ကြသည်။ အကြောင်း အမျိုးမျိုး ပြ၍ တင်ပြ တောင်းဆိုခဲ့ကြသည်။ သမီးတော်ကြီးကဆိုလျှင်....

''ခမည်းတော် အရိုက်အရာ လွှဲတော်မူလျှင် မောင်တော်က မချွတ်ကေန် မင်းလောင်းဖြစ်ပါမယ်၊ ဒီအခါမှာ မောင်တော်ရဲ့ ဆရာတော်လဲ သာသနာပိုင် ဖြစ်လာမှာပါ၊ သမီးတော်ရဲ့ ဆရာတော်မှာ တော့ သာသနာပိုင် ဖြစ်ဖို့ အခွင့်အလမ်းမရှိတော့ပါဘူး၊ ခမည်းတော် လက်ထက် သာသနာပိုင် ခန့်အပ်ပေးပါမှ သမီး

တော်ရဲ့ ဆရာတော်က သာသနာပိုင် ဖြစ်နိုင်တော့မှာပါ၊ ဒါကြောင့်မို့ သမီးတော်ရဲ့ ဆရာတော်ကို သာသနာပိုင် ခန့်ထားပေးတော်မူပါ'' ဟု အကြောင်းပြစကားဖြင့် လျှောက်တင်ခဲ့သည်။

ခမည်းတော် သာယာဝတီ မင်းသည် သမီးတော်ကြီး၏ အကြောင်းပြချက်ကို စဉ်းစားပြီးလျှင် သမီးတော်၏ အလိုကို လိုက်လျောခဲ့သည်။ သမီးတော် ကိုးကွယ်သော နတ်ရဲတောင် ဆရာတော်ကို ၁၂၀၁-ခု၊ တန်ဆောင်မုန်း လဆန်း ၁၅-ရက်နေ့တွင် ဆင်ကြိုးရွှေဂူသုဓမ္မာ ဇရပ်အတွင်း ကြီးစွာသော အခမ်းအနားဖြင့် သာသနာပိုင် အပ်နှင်းခဲ့လေသည်။

ထိုအခါ မိဖုရားခေါင်ကြီးက အမရပူရ မြို့တော် အရှေ့မြောက်ယွန်းတွင် တုလွတ်ဘုံကျော် ကျောင်းတော်ကြီးကို လည်းကောင်း၊သမီးတော်ကြီးက အောင်မြေ ဗိမာန် ကျောင်းတော်ကြီးကို လည်း ကောင်း ဆောက်လုပ် လှူဒါန်းခဲ့လေသည်။

၁၂၀၄-ခု၊ တပေါင်းလဆန်း ၆-ရက် တနင်္လာနေ့တွင် တံဆိပ်ရံ ၁၂ခုနှင့်အတူ 'ဥ ယျာဓမ္မာဘိ သိရိပဝရ လင်္ကာရ ဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိ ရာဇဂုရု' ဟူသော ဘွဲ့ တံဆိပ်ကို ဆက်ကပ်သည်။ တပေါင်း လဆန်း ၁၅-ရက်တွင် တုလွတ်ဘုံကျော် ကျောင်းကြီးကို လှူသည်။ ၎င်း လပြည့်ကျော် ၈-ရက် နေ့ တွင် အောင်မြေဗိမာန်ကျောင်းကြီးကို လှူသည်။

ဆရာတော်သည် ကန့်ဘလူမြို့ကျေး နတ်ရဲတောင်ရွာ အဘဘိုးထွန်းဝါ၊ အမိမယ်ယာတို့မှ ၁၁၆၁ ခု၊ပထမဝါဆိုလဆန်း ၁၀ ရက်၊ အင်္ဂါနေ့တွင် ဖွားမြင်သည်။ အသက် ၁၆ နှစ်ရှိမှ သာမဏေ ပြုသည်။ ရဟန်းဖြစ်သောအခါ ဘွဲ့မည်မှာ ရှင်ဥယျာဓမ္မတည်း။

၁၁၈၂-ခုတွင် အမရပူရနေပြည်တော်သို့ ရောက်သည်၊ ရှေးဦးစွာ ရွှေမရးဆောင်တိုက်၌ စာပေသင်ကြားသည်။ ၁၁၈၄-ခုနှစ်တွင် ဆင်တဲဆရာတော်ထံ နည်းခံ၍ ထိုနှစ်မှာပင် သဲအင်းဆရာတော်ထံ ခိုဝင်၍ ပညာသင်ကြားသည်။

သာယာဝတီမင်းက သဲအင်း ဆရာတော်အား သာသနာပိုင် ခန့်အပ်သောအခါတွင် နတ်ရဲတောင် ဆရာတော်အားလည်း 'ဥယျာဓမ္မာလင်္ကာရမဟာဓမ္မ ရာဇာဓိ ရာဇဂုရု'ဟူသောတံဆိပ်ရံတစ်ခုကို ဆက်ကပ်ခဲ့သည်။ ထိုတံဆိပ်ရပြီး၍၂ နှစ် ကျော်မျှ အကြာတွင် သာသနာပိုင် ခန့်အပ်ခြင်း ခံရသည်။ သာသနာပိုင်ဖြစ်ချိန်တွင် အသက် ၄၀ မျှသာရှိသေးသည်။

နတ်ရဲတောင် ဆရာတော် သာသနာပိုင် ဖြစ်လာခြင်းမှာ သမီးတော်ကြီး ကိုးကွယ်သော ဆရာတော် ဖြစ်သောကြောင့်ပင်၊ နှမနှင့်မောင် အားပြိုင်ပွဲတွင် ပုဂံမင်းသားက အရှုံးပေးခဲ့ရသည်။ ဤကိစ္စအတွက် အိမ်ရှေ့စံမင်းသည် မကျေမနပ်ဖြစ်ခဲ့ရသည်။ နှမတော်၏ အလိုကိုလိုက်လျောခဲ့သော ခမည်းတော်ကို ကျေနပ်နိုင်စရာမရှိပေ။

ပုဂံမင်းသာမဟုတ်။ ဒုတိယ ဗားကရာ ဆရာတော်မှာလည်း အနေခက်သလိုရှိလိမ့်မည်။ နေပြည်တော် သံဃာတို့၏ ထောက်ခံချက်ဖြင့် သာသနာပိုင် ဖြစ်လာလိမ့်မည်ဟုလည်း ကျော်စောနေခဲ့သည်၊ သို့ပါလျက် အခြေအနေပေးမလာခဲ့။ ဆရာတူ တပည့် ဖြစ်သော်လည်း ငယ်သူက သာသနာပိုင် နေရာကို ယူသွားလေပြီ။

နတ်ရဲတောင်ဆရာတော်သည် အခြေအနေ အကျပ်အတည်း ကြားမှ သမီးတော်၏ မျက်နှာကြောင့် သာသနာပိုင်ဖြစ်လာခဲ့ရသည်။ နေပြည်တော် သံဃာတော်တို့၏ ထောက်ခံမှုကိုမျှားစွာမရှိ။ ဤပြဿနာ အထွေထွေကို နတ်ရဲတောင် ဆရာတော် သိခဲ့သည်။ ဗားကရာဆရာတော်ကိုကျော်၍ သာသနာပိုင်ဖြစ်လာရခြင်းအတွက် မျက်နှာပူစရာလို ဖြစ်ရပြန်ပါသည်။

သက္ကရာဇ် ၁၂၀၇-ခုနှစ်တွင် သာယာဝတီမင်းသည် စိတ္တဇဝေဒနာ ဖြစ်လာတော့သည်။ တိုင်းပြည် အုပ်ချုပ်ရေးကို မလုပ်နိုင်တော့။ သားတော်အိမ်ရှေ့စံ ပုဂံမင်းက တာဝန်ယူ အုပ်ချုပ်ရသည်။ ပုဂံမင်း ထီးနန်းရတော့မည်ဟု သိနေကြပြီ။

ပုဂံမင်းထီးနန်းရလျှင် နတ်ရဲတောင်ဆရာတော်မှာ သာသနာပိုင်အဖြစ်မှ လျှောကျတော့မည်။ ဗားကရာ ဆရာတော်အားတင်မြှောက်တော့မည်။ ဤအခြေအနေကိုနတ်ရဲတောင် ဆရာတော် သိနေသည်။ ထို့ကြောင့် သာသနာရေးဆိုင်ရာလုပ်ငန်းများကို လျှော့ပေါ့ထားလိုက်သည်။ အမိန့်ပြန်တမ်းဆင့်ဆိုမှုတို့ကိုလည်း မလုပ်တော့။ သာသနာရေးလုပ်ငန်းများဟာကွက်တွေရှိနေသည်။ ထို့ကြောင့် ဝန်ရှင်တော်မင်းများက နတ်ရဲတောင်ဆရာတော်အား လျှောက်ထားခဲ့ရသည်။

ဝန်ကြီးတို့က—

သာသနာရေးဆာသနာတော်မှုများကို အပ်တော်မူသည့်အတိုင်း ဆင့်ဆိုမြဲ ဆင့်ဆိုတော် မူပါမည့်အကြောင်းကိုလျှောက်ထားကြသည်။

သာသနာပိုင် ဆရာတော်သည် ဝန်ကြီးများ၏ လျှောက်ထားချက်ကိုလက်ခံခြင်းမပြုတော့။ မိမိအခြေအနေကို သုံးသပ်၍ ဆုံးဖြတ်လိုက်၏။ ဤသည်မှာ သာသနာပိုင် အဖြစ်မှ နုတ်ထွက်ရန်ပင်တည်း။ ထို့ကြောင့် သာသနာပိုင် နုတ်ထွက်စာကို ဝန်ကြီးများမှ တစ်ဆင့် တင်သွင်းလိုက်လေသည်။

### သာသနာပိုင်ဆရာတော်၏ သွင်းစာ

ဆရာတော် အမိန့်ရှိလိုက်သည်။ သာသနာတော်ရေး သာသနာတော်မှုများကို မမေ့မလျော့၊ မလစ်မဟင်းစေရ၊ လျှောက်ထားသည့်အရာသည် ပစ္စုပ္ပန်သံသရာ လောကဓမ္မ အတ္တဟိတ ပရဟိတ အကျိုးအကြောင်း ကောင်းမြတ်သည်ဖြစ်၍ မဆုတ်မယုတ်ရာ၊ အပရိ ဟာနိယဘုရားအဝင်ပင်ဖြစ်သည်။ လောက ဓမ္မရာဇကြောင်း ၃-ပါးကို ထောက်ရှုလျှင် ငါတို့ကျေးဇူးသခင်သူရိယဝံသာဘိသိရိပဝရာလင်္ကာရ ဓမ္မသေနာပတိ မထေရ်သည် ကံတော်ကုန်စမဆွကပင် မိဘတို့အရိုက်အရာကို သားကြီးဖြစ်ရာ သည်သာ အရိုက်အရာ ယူမြဲဖြစ်၍ ဗားကရာ ဆရာတော်ဘုရားကြီးကို သံဃာကြီးတို့နှင့် ချီးပင့်တိုက်တွန်းကြသည်။ အကြောင်းမညီညွတ်၍ လွတ်လွှဲရှိခဲ့သည်။

ငါတို့ကျေးဇူးရှင် ဆရာတော် ဘုရားကြီးသည် ဒကာတော်၏ အရည်အသွေး၊ သာသနာတော်၏ အရည်အသွေး ၂-ပါးကိုပင် ဆင်ခြင်ထောက်ရှုပြီး၍ ဒကာတော်မင်းသားကို ပေးအပ်ခဲ့သည့် မင်္ဂလာဆရာဖြစ်သည်။ ငါတို့ ကျေးဇူးရှင် ဆရာတော်ဘုရားကြီး ရည်ရော်မှတ်သားခဲ့သည့်အရာကိုလည်း အချည်းအနှီး မပျက်စီးစေအောင် ဓမ္မကံ အကြောင်းအားဖြင့်လည်း ရှေးရှေးဘဝကာလတို့၌ အတူတကွ ပြုခဲ့ကြဖူးသော အထူး ဝိသေသကသည် ချိန်တန်ခါသင့်၍ မြင့်မြတ်ကြသည့်အရာ ဖြစ်သည်။

ဆရာတော်လည်း လောကီဥစ္စာ ရတနာကို လိုဆဲကာလ၌ ပေးစွမ်းနိုင်သော စကြာမင်း၏ သူဌေးကြီး ရတနာကဲ့သို့ တရား ရတနာဖြင့် အခါလေးမြင့် ချီးပင့်သသူလည်း ဖြစ်သည်။ ဆရာတော်ကို ဦးခိုင်ပြု၍ လောကအကျိုး ပွားများစေသင့်သည်။ ရာဇကြောင်းအားဖြင့် လည်း မင်္ဂလာဆရာဖြစ်၍ မနိမ့်မကျ ဌာနန္တရဖြင့် ချီးပင့်ကိုးကွယ်သင့်သည်။

သို့ဖြစ်၍ ဗားကရာ ဆရာတော်ဘုရားကြီးကို တိုက်တွန်း နှိုးဆော်မှ လောက ဓမ္မ ရာဇ အကြောင်း ၃-ပါး သင့်လျော်မည်။ ဆရာတော်ကလည်း အစွမ်းအလျောက် ချီး မြှင့်ထောက်ပံ့မည် ဝန်ရှင်တော် မင်းကြီးတို့။

(သက္ကရာဇ် ၁၂၀၇-ခု၊ တန်ဆောင်မုန်း ပြည့်ကျော် ၁၁-ရက်နေ့၊ ဝန်ရှင်တော်မင်းကြီးတို့ လျှောက်လာ၍ ၎င်းနေ့ သာသနာပိုင် ဆရာတော်ဘုရားကြီးသွင်းစာ။)

နတ်ရဲတောင် ဆရာတော်သည် ဖော်ပြပါ နေ့စွဲဖြင့် မိမိသာသနာပိုင်အဖြစ်မှနုတ်ထွက်ရန်တင်သွင်းခဲ့သည်။ ဗားကရာဆရာတော်ကို ခန့်ထားရန်လည်း အားပေး ရေးသားခဲ့သည်။

ရက်များစွာ ကြာပါ။ ထိုနှစ် နတ်တော်လအတွင်း မှာပင် ပုဂံမင်းသည် မိမိ၏ ဆရာဖြစ်သော ဗားကရာ ဆရာတော်အား သာသနာပိုင်အဖြစ် လွှဲပြောင်း အပ်နှင်းလိုက်လေတော့သည်။

(မှတ်ချက်။ ။ပုဂံမင်း လက်ထက် လောကသံအင်း သာသနာပိုင်၏ တပည့်ဆရာတော် တစ်ပါး မှတ်တမ်းတင်ခဲ့သော ယွန်းပေါင်း ပုရပိုက်မှတ်စာများကို ကိုးကား၍ ရေးသား ပါသည်။)

ဘုန်းနွယ်



# ပဏ္ဏကနှင့် ဒသဏ္ဏကဇာတ်

ငွေလွင်(ဆားလင်းကြီး)

၁၃၄၉ ခုနှစ်၊ တပို့တွဲ လပြည့်ကျော်(၁)ရက်။

၁၉၈၈ ခု၊ ဖေဖော်ဝါရီလ(၃)ရက်ဗုဒ္ဓဟူးနေ့။

ရန်ကုန်မြို့ကမ္ဘာအေးကုန်းမြေ ဥတ္တရကုရုကျောင်းဆောင် မြေညီထပ် မြန်မာစာသြဝါဒါစရိယအဖွဲ့ ဆရာတော်များ၏ရုံးခန်းတွင် မြန်မာစာသြဝါဒါစရိယဆရာတော်များနှင့် မြန်မာစာအဖွဲ့ဝင် ပညာရှင်များ စည်းဝေးကြသည်၊ မြန်မာစာအဖွဲ့က ရေးသား ပြုစုသော မြန်မာအက္ခရာသမိုင်း (မူကြမ်း) အပိုင်း (၁)မြန်မာအရေးအသား မြစ်ဖျားခံရာ(စာတမ်း)ကို မြန်မာစာသြဝါဒါစရိယ ဆရာတော်များ၏ ထင်မြင် သုံးသပ်ချက်ကို တင်ပြသော အစည်းအဝေးဖြစ်သည်။

မြန်မာစာ သြဝါဒါစရိယအဖွဲ့၏ ဥက္ကဋ္ဌ ဖြစ်သော တိပိဋကဓရ အဘိဓဇမဟာရဋ္ဌဂုရု ဆရာတော် အရှင်ဝိစိတ္တသာရာဘိဝံသနှင့် အဖွဲ့ဝင် ဆရာတော်များ (၈) ပါးစုံညီစွာ တက်ရောက်တော်မူကြသည်။ မြန်မာစာအဖွဲ့မှလည်း ဦးဆန်းထွန်း၊ ဒဂုန် ဦးစန်းငွေ၊ ဦးသော်ဇင်၊ ဦးမြင့်ကြည် (ညွှန်ကြားရေးမှူး)၊ ဦးထွန်းတင်စသော ပညာရှင်များ တက်ရောက်ကြသည်။ ၃-နာရီတွင် အစည်းအဝေးပြီးဆုံးသည်။

အစည်းအဝေးပြီးဆုံး၍ အနားယူခိုက် ဆရာတော်များ ပြန်မကြွမီ ဆရာကြီး ဦးဆန်းထွန်းက လျှောက်သည်။

''ဒီနေ့ ကျင်းပပြီးစီးတဲ့ အစည်းဝေးနှင့်တော့ မဆိုင်ပါဘူး၊ ဆရာတော်များ စုံညီခိုက် လျှောက်ထား လိုပါသည်ဘုရား''ဟု စကား ချီလိုက်သည်။ ဆရာဦးဆန်းထွန်းသည် သူ၏ မှတ်စု စာအုပ်ကို ထုတ်၍ အလေးအနက် လျှောက်ထားသည်။

ဇာတ်စဉ်အမှတ်(၄၀၁)ဖြစ်သော ဇာတ်ကို'ပဏ္ဏကဇာတ်'လို့ ဇာတ်အဋ္ဌကထာ တတိယအုပ်မှာရှိပါသည်။ သီဟိုဠ်မူက 'ဒသဏ္ဏကဇာတ်'လို့ တွေ့ရ ပါတယ်။ ယိုးဒယားမူ၊ အင်္ဂလိပ်မူများမှာလည်း'ဒသဏ္ဏက'လို့ပဲ ရှိပါတယ်။

ပုဂံစဉ့်ကွင်းမှာ'ဒသန္နကာ'လို့ ရှိပါတယ်၊ မှန်နန်းမဟာရာဇဝင်တော်ကြီးတတိယတွဲ စာမျက်နှာ(၂၁၆)မှာ 'သေနကဇာတ်' ဖြစ်နေပါသည်။ ကုန်းဘောင်ခေတ် ပုဂံမင်းလက်ထက် ဆီမီးခုံရွာစား မဟာမင်းလှမင်းခေါင် ရေးသားသော'ဥမ္မာဒန္တီပျို့'တွင်—

တပ်ခြင်း ပြင်းထန်၊ ရာဂလွန်၍၊ ဒသန္နက၊ ဇာတ်မည်ရတွင်—ဟုတွေ့ရပါသည်။

ပဏ္ဏက၊ ဒသဏ္ဏက၊ ဒသန္နက ဟု သုံးမျိုး ကွဲပြားနေရာ ဘယ်ဟာမှန်သည်ဟု သိလိုပါသည်ဟုလျှောက်ထားလေသည်။ ဆရာတော် အချို့က 'အမည်ဆိုတာအမျိုးမျိုးကွဲပြားနိုင်ကြောင်း စသည်ဖြင့် သာမညသာမိန့်ကြားတော်မူကြပါသည်။ ဆရာကြီး ဦးဆန်းထွန်း၏ ထိုပြဿနာကား စိတ်ဝင်စားဖွယ်ဖြစ်ပါသည်။

ဆဋ္ဌမူ ဇာတ် အဋ္ဌကထာ တတိယအုပ် သတ္တကနိပါတ်တွင် ယင်းဇာတ်ကို တွေ့ရပါသည်။

၆-ပဏ္ဏကဇာတကဝဏ္ဏနာ(၄၀၁)ဟု(နှာ-၃၁၇)တွင် တွေ့ရသည်။ယင်းဇာတ်တော်အဆုံး(နှာ-၃၂၁)တွင် 'ပဏ္ဏကဇာတက ဝဏ္ဏနာ ဆဋ္ဌာ'ဟု ဖော်ပြပြီးအောက်ခြေ၌ မူကွဲဖော်ပြရာတွင် ၁-ဒသဏ္ဏကဇာတကဝဏ္ဏနာ (သီ-သျာ-ကြ)ဟု တွေ့ရသည်။ သီဟိုဠ်မူ၊ ယိုးဒယားမူ၊ အင်္ဂလိပ်မူတို့၌ 'ဒသဏ္ဏကဇာတက'ဟု ရှိကြောင်း ဖော်ပြခြင်းပင် ဖြစ်ပါသည်။

ဆရာကြီးဦးဆန်းထွန်း ရွတ်ဆိုပြသောဥမ္မာဒန္တီပျို့စာပိုဒ်ကို ယင်းပျို့ပိုဒ်ရေ(၇၉)၌ တွေ့နိုင်သည်။

ပုဂံမြို့ကရေးကူး၍ ဆက်ရောက်သည့် ပုံတော်များကို ဆရာတော်ကိုပြလျှောက်ရမည်ဟု ဘိုးတော် ဗဒုံမင်းတရားက အမိန့်ရှိ၍ အတွင်းဝန်များက မောင်းထောင်သာသနာပိုင် ဆရာတော်ထံ မေး လျှောက်သည်။ (၁၁၅၂) ခုနှစ်၊ တပေါင်းလပြည့်ကျော် (၃)ရက်နေ့က လျှောက်ထားရာ ဆရာတော်က မေတ္တာစာဆက်သွင်း၍ ဇာတ်စဉ်-ဇာတ်အမည် အရပ် အရေအတွက်များကို စာရင်းပြုကာ ရေးသားဖြေဆိုတော်မူသည်။

'၄၀၁-ဒသန္နကဇာတ်'ဟု တွေ့ရသည်။ (အမေးတော်ဖြေ)မင်းတုန်းမင်းတရားကြီးလက်ထက် 'မေဓာဘိဝံသ သဒ္ဓမ္မဓဇ မဟာဓမ္မရာဇာဓိ ရာဇဂုရု'ပြည်ဆရာတော်ရေးသားတော်မူသော ဇာတ်ပါဠိတော်နိဿယကိုရှာဖွေကြည့်မိပါသည်။ယင်းနိဿယ၌လည်း'၄၀၁-ပဏ္ဏကဇာတ်'ဟု တွေ့ရပါသည်။ ဆရာတော်သည်သဒ္ဒါပုဒ်နေပုဒ်ထားအဆုံးအဖြတ်များကိုရေးသားလေ့ရှိသော်လည်း ဤဇာတ်တော် အမည်ကွဲ ရှိနေခြင်းကိုကား ရေးသားတော် မမူခဲ့ပေ။ ပဏ္ဏကဇာတ်-ဟူသောအမည်ကိုပင် မြန်မာမူက လက်ခံလာခဲ့ကြသည်ဟု ယူဆရန်ရှိသည်။

ဇာတ်အဋ္ဌကထာ၌ 'ပဏ္ဏကန္တိ-ပဏ္ဏကရဋ္ဌေဥပ္ပန္န'ဖွင့်ဆိုထားရာ ပဏ္ဏကသည် 'ပဏ္ဏကတိုင်း' ဖြစ်သည်။ ဇာတ်ပါဠိတော်နိဿယ၌လည်း 'ပဏ္ဏကံ-ပဏ္ဏကတိုင်း၌ဖြစ်သော'ဟု ပြန်ဆိုထားသည်။ ပေတဝတ္ထု ပါဠိတော်(နှာ-၁၅၁)၌—

နဂရံ အတ္ထိ ပဏ္ဏာနံ၊

ရေကစ္ဆန္တိ ဝိဿုတံ-ဟုတွေ့နိုင်သည်။

ပေတဝတ္ထု အဋ္ဌကထာ(နှာ-၉၄)၌—

အနုပ္ပဒန္န ဂါရ ပုဗ္ဗေ ပဏ္ဏာရဋ္ဌေ (ဒသန္နရဋ္ဌေ၊သီ၊ကြ) ရေကစ္ဆနဂရေမနုပါလကောနာမ သေဋ္ဌိ အဟောသိ—ဟုဖွင့်ဆိုချက်ကို တွေ့နိုင်သည်။ ထို အဋ္ဌကထာ(နှာ-၉၆)၌—

ပဏ္ဏာနန္တိ ပဏ္ဏာနာမ ရဋ္ဌဿ (ဒသန္နာနန္တိဒသန္နရဋ္ဌဿ။သီ ကြ) ဝေါ် နာမကာနံ ရာဇူနံ။ ရေကစ္ဆန္တိ တဿ နဂရဿ နာမံ—ဟုဖွင့်ဆိုထားသည်။သီဟိုဠ်မူ၊ အင်္ဂလိပ်မူများက'ဒသန္န'ဟူသောအမည်ကို အတည်ပြုထားသည်။

ယင်းသို့ဖြစ်လျှင် မည်သည့်အမည်ကို အမှန်ဟု ဆိုမည်နည်း။ ထိုပုဒ်ကို ဖွင့်ဆိုထားသော အဘိဓာန်များ၏ ဖွင့်ဆိုချက်ကိုသာ အားကိုးရပေမည်။

'ဒသာဏ္ဏ(ပု) ဒသ ထူဏာနိ ဒုဂ္ဂါနိ ဇလာနိ ဝါ ယတြ ဣဏာသဒ္ဒဝုဒ္ဓိ၊ ဒေသ ဘေဒေ၊ နဒီဘေဒေ-ထိ'ဟု သဒ္ဒတ္ထောမ မဟာနိဓိသက္ကတ အဘိဓာန်၌ဖွင့်ဆိုထားသည်။ ထို့ပြင်—

'ဒသာဏ္ဏ(ပု)ဒေသဝိသေသော၊သ ဝိဍ္ဍ၂ ပဗ္ဗတဿ ပုဗ္ဗ ဒက္ခိဏာဿ ဒိသာယံ ဝတ္တတေ။ နဒီ ဝိသေသေ-ထိ၊ ဣတိ သဒ္ဒတ္တ ကပ္ပတရု'ဟု သဒ္ဒကပ္ပဒ္ဒုမ၌ ဖွင့်ဆိုထားသည်။ ထိုမျှသာမဟုတ်သေးပေ၊ ဝါစပ္ပတိ အဘိဓာန်၌လည်း ထို့အတူဖွင့်ဆို ထားသည်ကို တွေ့နိုင်သည်။ဖော်ပြပါအဘိဓာန်ဖွင့်ဆိုချက်များကိုထောက်၍ 'ဒသဏ္ဏကဇာတက' သာအမှန်ဟု ယူဆရန် ရှိပါသတည်း။ ။

ငွေးလွင်(ဆားလင်းကြီး)



မြန်မာမှု

သဘာဝပန်းဟန်
ပန်းတော့ ဥကင်တံကဲ

အလောင်း စည်သူ မင်းကြီး၏ ကုသိုလ်၊ ဆားလင်းကြီးမြို့ ချမ်းသာရပ် စည်သူပန် ဘုရားတွင် ကောဇာ ၁၂၇၃–ခုနှစ် ခန့်က ပန်းတော့ ဆရာကြီးဦးမြစ် ပြုလုပ်ခဲ့သော လက်ရာတောင်း ဖြစ်သည်။

အစဉ်အလာ တွေ့ရရာတ်သော ကနုတ်ပန်း ဥကင်တံကဲ ပုံစံမျိုးမဟုတ်မူဘဲ သဘာဝ ပန်းပွင့်ဟန်များဖြင့် ဥကင်တံကဲ ပုံသဏ္ဍာန် လှပစွာ ဖန်တီးခဲ့သည်ကို တွေ့မြင်နိုင်ပါသည်။

ဓာတ်ပုံ ကူညီသူ – မျိုးဆွေ သန်း၊ ( မြန်မာစာ ) အား ကျေးဇူးတင်ပါသည်။

မောင်အေးမြင့် (မြန်မာ့ရိုးရာဒီဇိုင်း)





# ပါဠိ
# သီဟိုဠ်-မြန်မာ
# သာသနာဆက်သွယ်ရေး ၂

ပုဂံပြည်၌ နရပတိစည်သူမင်းကြီး ကွယ်လွန်သွားသောအခါ မင်းယဉ်သိခ် နန်းတောင်းများဘုရင် (၁၂၁၀-၃၄) နန်းတက်သည်။ ထိုဘုရင်ကို ထီးလို မင်းလိုဟုလည်းခေါ်သည်။ ထီးလိုမင်းလိုသည် ပုဂံ၌ မဟာဗောဓိဘုရားနှင့် ထီးလို မင်းလိုဘုရားကို တည်သည်။ မဟာဗောဓိဘုရားမှာ ဗုဒ္ဓဂယာ မဟာဗောဓိစေတီ နမူနာအတိုင်း တည်ထားသည့်ဘုရားဖြစ်သည်။ ထီးလိုမင်းလိုသည် သူ၏ခမည်းတော် အလောင်းစည်သူမင်းကြီးလက်စသတ်မသွားခဲ့သော ဂေါ်ဓော့ပလ္လင်ဘုရားကိုလည်း ပြီးအောင်တည်လေသည်။

ထီးလိုမင်းလိုတည်သော အခြားဘုရားတစ်ဆူမှာ စေတနာကောင်းမှုတော် ဖြစ်လေသည်။ စေတနာကောင်းမှုတော်ကို သီဟိုဠ်(သီရိလင်္ကာ) ပုထိုးများပုံစံအတိုင်း တည်ထားလေသည်။ ယင်းမှာ သီဟိုဠ် (သီရိလင်္ကာ)နှင့်မြန်မာနိုင်ငံ သာသနာရေးဆက်သွယ်မှု၏ အစောပိုင်းက အထိမ်းအမှတ်တစ်ခုပင် ဖြစ်လေသည်။ ထိုမင်းလက်ထက်တွင် ပုဂံပြည်၌ ကျောက်ဂူဥမင်ကဲ့သို့သောသံဃာရာမကျောင်းတိုက်များ၌ ရဟန်းသံဃာ အများ အပြား သီတင်းသုံးကြလေသည်။ ထိုရဟန်းသံဃာများထဲက သီဟိုဠ် (သီရိလင်္ကာ)နိုင်ငံမှ ဆပ္ပဋမထေရ်နှင့် အတူ လိုက်ပါလာသော အာနန္ဒာ မထေရ်၏ တပည့်တစ်ဦးသည်ဓမ္မဝိလာသဓမ္မသတ်အမည်ရှိ ဓမ္မသတ်ကျမ်းတစ်စောင်ကို ရေးသားလေသည်။

အင်းဝ၌ ကလေးကျေးတောင်ညိုမင်း နတ်ရွာစံသောအခါ မိုးညှင်းမင်းတရားကြီးသည် (၁၄၂၇-၄၀) သီရိသုဓမ္မရာဇာ ဘွဲ့မည်ဖြင့် နန်းတက်သည်။




မိးညွှင်းမင်းတရားကြီး လက်ထက် ၁၄၃၀-ခုနှစ်၌ လင်္ကာဒီပသီဟိုဠ်ကျွန်းမှသီရိသဒ္ဓမ္မလင်္ကာနှင့် သီဟဠ မဟာသာမိ အမည်ရှိ မထေရ်နှစ်ပါးသည် မြတ်စွာဘုရား၏ သရီရဓာတ်တော်ငါးဆူကို ပင့်ဆောင်ယာကြသည်။ ပုသိမ်မြို့အရောက်တွင် ဗညားရံက တားသော်လည်းတားမရသည်ဖြစ်၍၊ ဗညားရံကပြည်မြို့သို့အထိ ဖောင်တော်နှင့် ပို့ပေးသည်။ ဘုရင်မင်းကြီးကြားသိသောအခါ လှော်ကားကြော့ လေးဆယ်နှင့် ပြည်မြို့အထိသွားရောက်ပင့်ဆောင်စေခဲ့သည်။ ဘုရင်မင်းကြီးသည် မိဖုရား မောင်းမမိသံ များနှင့်မှူးတော်မတ်တော်များခြံရံလျက် ရွှေဖောင်နှင့် ရွာသစ်ကြီးသို့ သွားရောက်ကြိုဆိုလေသည်။

အင်းဝရောက်လာသောအခါ နန်းတော်တစ်ခုလုံးနှင့် မြို့သူ မြို့သားအားလုံးတို့သည် သီဟိုဠ်ကျွန်းမှ ပင့်ဆောင်လာသော ဓာတ်တော်ကို ဖူးမြော်ကြလေသည်။ ဘုရင်မင်းကြီးသည် စစ်ကိုင်းအနောက်ဘက်နှစ်မိုင်ကွာလောက်၌ သီဟိုဠ်ကျွန်းမှ ပင့်ဆောင်လာသောဓာတ်တော်များကိုဌာပနာပြီးလျှင်ရတနာစေတီအမည်ရှိ စေတီတစ်ဆူကိုတည်လေသည်။ နောက်ပိုင်း၌ ထိုစေတီကို ဘုရားဖြူ ဟူ၍သည်း ခေါ်ကြသည်။ စေတီ၏အနောက်ဘက်တွင်လည်း ကျောက်သရေသုံးတိုက်နှင့် အုတ်ရွှေကျောင်း ဆောက်လုပ်ပြီးလျှင် သီဟိုဠ်မှကြွလာသော သီရိသဒ္ဓမ္မလင်္ကာရနှင့် သီဟဠ မဟာသာမိ မထေရ်တို့အား လှူဒါန်းလေသည်။

ဘုရင်နရပတိ (၁၄၄၃-၆၉) လက်ထက်၌လည်း သီဟိုဠ် (သီရိလင်္ကာ)နှင့် မြန်မာနိုင်ငံသည် သာသနာ

ရေးဆက်သွယ်မှုရှိခဲ့သည်။ ဘုရင်မင်းကြီးသည် သီဟိုဠ်ကျွန်းသို့ သံတမန်များ စေလွှတ်ပြီးလျှင် စွယ်တော်အတွက်ရတနာအတိပြီးသော ရွှေသပိတ်စသောလှူဖွယ်ပစ္စည်းများလှူဒါန်းစေသည်။ သီဟိုဠ် (သီရိလင်္ကာ) ဘုရင်အတွက်လည်း လက်ဆောင်ပဏ္ဏာများ ပါးလိုက်လေသည်။ ဘုရင့် သံတမန်များသည် သီဟိုဠ်ကျွန်းရောက်သွားသောအခါ စွယ်တော်အတွက် လှူဖွယ်ပစ္စည်းများကို လှူဒါန်းပြီးလျှင်ဘုရင်မင်းကြီး၏ အမိန့်အရ ဝါလုကာရာမ မည်သော သင်္ဘောဆိပ်၌ ဇရပ်တစ်ဆောင်၊ သီရိပါဒ တောင်ခြေရင်းရှိ ဂီရိမာရွာ၌ ဇရပ်တစ်ဆောင် ဆောက်လုပ် လှူဒါန်းလေသည်။ သီဟိုဠ် (သီရိလင်္ကာ)မင်းထံမှမြေဝယ်ယူ၍ ထိုမြေခွန်မှ ရသော ငွေကြေးနှင့် ဇရပ်တွင် တည်းခိုလာသော ခရီးသည်များ၏ စားရေးသောက်ရေး အတွက်လည်း စီမံပေးခဲ့လေသည်။(**G.E. Harvey**)တို့၏အဆိုအရမူ သီဟိုဠ် (သီရိလင်္ကာ)နှင့် သာသနာရေး ဆက်သွယ်မှုပြုသောဘုရင်မှာ ဘုရင်နရပတိမဟုတ်ဘဲ ဘုရင်သီဟသူ (၁၄၆၉-၈၁) ဖြစ်သည်။ သီဟိုဠ် (သီရိလင်္ကာ) သို့မြန်မာနိုင်ငံမှ သံတမန်များလှူဖွယ်ပစ္စည်းယူဆောင်သွားသော နှစ်မှာ ၁၃၇၅-ခုနှစ်ဟု **'History of Burma'**၌ ဆိုထားသည်။

အေဒီ ၁၂၈၁-၌ မုတ္တမတွင် ဝါရီရူ မင်းပြုသည်။ ဝါရီရူ၏သြဇာအာဏာသည် ပဲခူးအထိ လွှမ်းမိုးလာသည်။ ဝါရီရူအဆက်အနွယ် ရှစ်ဆက်မြောက်ဆင်ဖြူရှင် ဗညားဦးဘုရင် (၁၃၅၃-၈၅)လက်ထက်ရောက်လာသော အခါ ဗညားဦးသည် မုတ္တမမှ ပဲခူးသို့ ပြောင်းရွှေ့စိုးစံသည်။ ဗညားဦးလက်ထက်၌ ဇင်းမယ်မှ ထောင်ပေါင်းများစွာသောလူတို့သည် ဗညားဦး၏ ပိုင်နက်ကို ဝင်ရောက်တိုက်ခိုက်လာကြသည်။ ဗညားဦးသည် ထိုကျူးကျော်လာသူများအား တိုက်ထုတ်နိုင်ခဲ့လေသည်။ ကျူးကျော်သူများသည်ဗညားဦး၏ပိုင်နက်နယ်မြေတွင်းမှ ထွက်ခွာ မသွားမီ သထုံခရိုင်တွင်းရှိ တိုက်ကုလား၊ စစ်တောင်းစသော နယ်မြေများကို ဖျက်ဆီးပစ်ကြလေသည်။ ထိုကျူးကျော်သူများ ဆုတ်ခွာသွားသောနေရာ၌ ဗညားဦးသည် စေတီတည်လေသည်။ ထိုစေတီတွင် ဗညားဦးသည် သီဟိုဠ်မှရရှိလာသော ဓာတ်တော်များကို ဌာပနာထားလေသည်။

သီဟိုဠ်-မြန်မာ သာသနာရေးဆက်သွယ်မှုသမိုင်း၌ သမိုင်းမှတ်တိုင် စိုက်ထူရသောခေတ်မှာ ဟံသာဝတီ၌ ဓမ္မစေတီမင်းကြီး(၁၄၇၂-၉၂)စိုးစံသောခေတ် ဖြစ်လေသည်။ သီဟိုဠ်(သီရိလင်္ကာ)နှင့် မြန်မာနိုင်ငံ၌ ပြန့်ပွား ထွန်းကားသော သာသနာတော်၏ ပဓိရင်းမှာ မဇ္ဈိမဒေသဖြစ်လေသည်။ လက်ဖျားတွင် ထွန်းကား စည်ပင် နေချိန်၌ လက်ရင်းတွင် မှေးမှိန်အားလျော့နေပြီ။ လက်ဖျားများဖြစ်ကြသော မြန်မာနှင့် သီဟိုဠ် (သီရိလင်္ကာ)၌ပင် တခါတရံ အားပျော့ မှေးမှိန် သွားတတ်သည်။ ထိုအခါမျိုး၌ တစ်ဦး၏ အကူအညီကို တစ်ဦးက ယူရလေသည်။ ပုဂံပြည်တွင် အနော်ရထာ မင်းကြီး ထီးနန်းစိုးစံစဉ် အခါက အနော်ရထာ မင်းကြီးနှင့် ခေတ်ပြိုင် သီဟိုဠ်(သီရိလင်္ကာ) ဘုရင်မှာ ပထမဝိဇယဗာဟု ဖြစ်လေသည်။ ပထမဝိဇယဗာဟုသည် ရန်သူများ၏ ဘေးရန်ကြောင့် သီဟိုဠ်(သီရိလင်္ကာ)တွင်သာသနာ ညှိုးမှိန်သွားသည့်အခါ၊ထိုညှိုးမှိန်သွားသောသာသနာတော်ကိုပြန်လည်ထွန်းကားလာစေရန်အတွက် ပုဂံပြည် အနော်ရထာမင်းကြီးထံ သာသနာရေး အကူအညီကို တောင်းခံခဲ့လေသည်။ အနော်ရထာမင်းကြီးကလည်း ဝမ်းပန်းတသာ ထေရ်သံဃာများကို လွှတ်ပြီးလျှင် သီဟိုဠ် (သီရိလင်္ကာ)၌ သာသနာတော် ပြန်လည် စည်ပင်လာရေးအတွက် အကူအညီ ပေးခဲ့လေသည်။

ဓမ္မစေတီမင်းကြီးလက်ထက်တွင်ကားရာမညတိုင်း၌ သာသနာတော်သန့်ရှင်းစင်ကြယ်ရေးအတွက် သီဟိုဠ် (သီရိလင်္ကာ)နိုင်ငံ၏ အကူအညီကို ယူရလေသည်။ ဓမ္မစေတီမင်းကြီးသည် သူ အုပ်ချုပ်နေသော နိုင်ငံ၌ ရှိနေသောသာသနာကို ကျေနပ်အားရခြင်း မရှိပေ။ သာသနာအတွင်း၌ အုတ်အရောရော ကျောက်အရောရော ဖြစ်နေသည်ဟု မင်းကြီးကတွက်လေသည်။သီဟိုဠ် (သီရိလင်္ကာ)နိုင်ငံ၌ အုပ်ချုပ်ခဲ့သောသီရိသင်္ဃပရက္ကမဗာဟုမင်း၊ဝိဇယဗာဟုမင်း၊ ပရက္ကမဗာဟုမင်းတို့သည် သူတို့ခေတ်က မစင်ကြယ် မသန့်ရှင်း ဖြစ်နေသော သာသနာကို ပြန်လည် သွေးသစ် လောင်းပြီးလျှင် စင်ကြယ် သန့်ရှင်းသွားအောင် ပြုလုပ်ခဲ့ကြလေသည်။ ထိုနည်းတူစွာ ဓမ္မစေတီမင်းကြီးကလည်း မစင်ကြယ် မသန့်ရှင်းဖြစ်နေသည့်သာသနာကို သွေးသစ်လောင်းလိုသည့်ဆန္ဒ ဖြစ်ပေါ်လာလေသည်။



ထို့ကြောင့် ရဟန်းသံဃာများနှင့် လူတကာတို့ ပါဝင်သော ကိုယ်စားလှယ်အဖွဲ့ကို နှစ်ဖွဲ့ခွဲပြီး ဘုရင်မင်းကြီးသည် သီဟိုဠ် (သီရိလင်္ကာ)သို့ စေလွှတ်လိုက်လေသည်။ ကိုယ်စားလှယ်အဖွဲ့တစ်ဖွဲ့တွင် မောဂ္ဂလာန်မထေရ် စသော ရဟန်းတော် တစ်ကျိပ် တစ်ပါးနှင့် ရာမအမည်ရှိ သံတမန် တစ်ဦး ပါဝင်ပြီး အခြား အဖွဲ့တစ်ဖွဲ့၌ မဟာသီဝလိ မထေရ်စသော ရဟန်းတော် တစ်ကျိပ်တစ်ပါးနှင့် စိတြအမည်ရှိ သံတမန် တစ်ဦး ပါဝင်သည်။ ထိုအချိန်က သီဟိုဠ်ကျွန်းတွင် ဆဋ္ဌမဘုဝနေကဗာဟုဘုရင် စိုးမိုး အုပ်ချုပ်နေသည်။ ဓမ္မစေတီမင်းကြီးသည် ဘုဝနေကဗာဟုမင်းကြီးအတွက် အဖိုးထိုက် အဖိုးတန်လက်ဆောင်ဘဏ္ဍာ ရွှေ ငွေ ရတနာများကိုလည်းကောင်း၊ စွယ်တော်နှင့် ခြေတော်ရာ၊ ဗောဓိပင်တို့ကို ပူဇော်ရန်အတွက် လှူဖွယ် ပစ္စည်းအမျိုးမျိုးကို လည်းကောင်း၊ သီဟိုဠ် (သီရိလင်္ကာ) ရဟန်းသံဃာတော်များအတွက် လှူဖွယ် ပစ္စည်းများကိုလည်းကောင်း ကိုယ်စားလှယ်အဖွဲ့နှင့် ပေးလှူလိုက်လေသည်။ သီဟိုဠ်(သီရိလင်္ကာ)ဘုရင်အားဆက်သရန် သဝဏ်လွှာကိုလည်း ပါးလိုက်လေသည်။

ရာမသံတမန်ပါဝင်သောအဖွဲ့စီးသော သင်္ဘောက တစ်ရက်ကြိုပြီးထွက်သော်လည်း စိတြသံတမန်တို့အဖွဲ့စီးသောသင်္ဘောက စောပြီး ကိုလမ္ဗိုသင်္ဘောဆိပ်သို့ ရောက်သွားသည်။ လမ်းခရီး၌ တစ်သနီးပါးလောက်ကြာသည်။ ရာမသံတမန်တို့အဖွဲ့စီးသော သင်္ဘောမှာမူ လမ်းခရီး၌အခက်အခဲတွေ့သဖြင့် နှစ်လလောက်ကြာမှ ရောက်သွားသည်။ မြန်မာနိုင်ငံမှလာသောသာသနာ့ကိုယ်စားလှယ်အဖွဲ့အား သီဟိုဠ်ဘုရင်က ကောင်းစွာကြိုဆိုပြီး လိုအပ်သည်များကို ဆောင်ရွက် ပေးလေသည်။ မြန်မာနိုင်ငံမှရောက်လာကြသော ရဟန်းတော်များအား ကလျာဏီမြစ်ထဲတွင် မဟာဝိဟာရဝါသီ ဂိုဏ်းဝင်မထေရ်အရှင်များက ဥပသမ္ပဒပဉ္စင်းအဖြစ် ထပ်မံခံပေးကြလေသည်။ မြန်မာ ရဟန်းတော်များအား ဘွဲ့နာမံတော် အသစ်များကိုလည်း ပေးကြလေသည်။

သီဟိုဠ်(သီရိလင်္ကာ)၌ပူဖွယ်ကိစ္စများကိုအောင်မြင်ထမြောက်စွာ ပြုလုပ်ပြီးစီးသောအခါ ကိုယ်စားလှယ်အဖွဲ့သည်မြန်မာနိုင်ငံသို့ ပြန်လာသည်။ အပြန်ခရီး၌လည်း ရာမသံတမန်တို့အဖွဲ့က စောပြီး ပြန်သည်။ ပင်လယ်သမုဒ္ဒရာထဲတွင် ၁၅-ရက်မျှကြာသည်။ စိတြသံတမန်တို့အဖွဲ့ကား အပြန်ခရီး၌ အဆင်မပြေ ဖြစ်ခဲ့လေသည်၊ ထို ကိုယ်စားလှယ် အဖွဲ့၏ သင်္ဘောသည် ကိုလမ္ဗိုသင်္ဘောဆိပ်၌ ကျောက်ချထားစဉ်လေမုန်တိုင်းတိုက်ခတ်သဖြင့် နစ်မြုပ်သွားလေသည်။ ထို့ကြောင့် သီဟိုဠ်(သီရိလင်္ကာ)ဘုရင်စီစဉ်ပေးသော သင်္ဘောဖြင့် ပြန်လာကြရသည်။ သို့ရာတွင် ထိုသင်္ဘောသည်လည်း ပင်လယ်ထဲတွင် သုံးရက်မြောက်နေ့၌မုန်တိုင်းကြောင့် ကျောက်ဆောင်စွန်းနှင့် ငြိပြီး ဆက်လက်သွား၍ မရတော့ပေ။ ဒုက္ခ အကြီးအကျယ် ကြုံတွေ့ကြရသော ကိုယ်စားလှယ် အဖွဲ့သည် ဖောင်ဖွဲ့ပြီး ခဲခဲယဉ်းယဉ်း အသက်ဘေးမှ လွတ်အောင် လှော်ခတ်သွားကြလေရာ အိန္ဒိယ တောင်ပိုင်း နာဂပတ္တန သင်္ဘောဆိပ်သို့ ရောက်သွားကြသည်။ ထိုမှတဆင့် ရရာသင်္ဘောကြုံဖြင့် ပြန်လာကြရာ မြန်မာနိုင်ငံသို့ လေးငါးခြောက်လလောက် ကြာမှ တကွဲတပြားစီ ပြန်ရောက် လာကြသည်။ ကြေကွဲဖွယ်ကောင်းသည်မှာ မထေရ်ခြောက်ပါးနှင့် ရဟန်းငယ် လေးပါးတို့သည် သူတို့၏ သာသနာရေးခရီး၌ မြန်မာနိုင်ငံသို့ ပြန်မရောက်လာကြတော့ပဲ ပင်လယ်ထဲတွင် အသက်စတေးသွားကြရလေသည်။

ဓမ္မစေတီမင်းကြီးသည် သီဟိုဠ်ကျွန်းမှ ဥပသမ္ပဒကံ ပဉ္စင်းအသစ်ခံလာကြသော ရဟန်းတော်များနှင့် ပဲခူး

စာမျက်နှာ (...)

လိုက်လျှင်လဲ တခါတည်းနှင့် ပျောက်တာပဲ၊ ပြောရဦးမယ်–မှတ်ချင်လည်းမှတ်ထားပေါ့၊ နှာစေးခေါင်းခဲကစပြီး ပေါ်ပေါ့အဖျားလောက်တော့ ပျောက်တဲ့နှာမှို့ နည်းပါပေးလိုက်ချင်တယ်''

ဤသို့စသည်ဖြင့် စကားချီ၍– ''တြိ, ကျည်း, ခ၊ ဇီဝက၊ ခေါ်ကြနှာဆေးနည်း။ ဆေး တစ်ကျပ်ကို၊ ဇာတိပ္ဖိုလ်၊ ထည့်လို တစ်လုံးတည်း။ သဗ္ဗရောဂါ၊ အန္တရာ၊ မြန်ခွာပျောက်သည်ချည်း။ ဆေးမည် နာမ၊ ဇီဝက၊ တပ်ကြ လိပ်ကမ္ပည်း။''ဟူသောရတ်ကောင်း ပိတ်ချင်းသီး ,သဘော်ချင်းခြောက်ဟူသော တြိကဋုက်သုံ ပါးတစ်ကျပ်သားစီ၊ ကျည်းသီးအဆံ တစ်ကျပ်သား၊ ခယားသီးအဆံ တစ်ကျပ်သား၊ ဇာတိပ္ဖိုလ်သီး တစ်လုံး ဤခြောက်ပါးကိုညက်ဘွာထောင်း၍အမှုန့်နှုန့် ပြုထားရသည်...ဟူသော ဆေးနည်းကို ရှေးဦးစွာ မှတ်သားရပါသည်။

ဤနှာပူကြီးနှင့်အနှတ်ခံရမည်ကိုကြောက်၍ကျောင်းသားများ တော်တော်တန်တန် နေမကောင်းလျှင်ပင် မပြောဘဲနေကြသည်။ နေမကောင်းမှန်းသိလျှင်လည်း ဤနှာပူကြီးကို တစ်ကြိမ်ရှူလိုက်လျှင်ပင် ပျောက်ကင်းသွားကြသည်ဟု စကားစ၍ ဤနှာပူကြီးကို ဥပမာ ပြုလျက် ဆရာတော် မိန့်ကြားသည်မှာ တစ်သက်တွင် မမေ့နိုင်စရာပင်ဖြစ်ပါသည်။

**ဆရာ့ကရုဏာ**

ဆရာသမားတို့သည် တပည့်တို့အား နည်းအမျိုးမျိုးဖြင့် ဆုံးမလေ့ ရှိကြသည်။ ပျော့ပျော့ပျောင်းပျောင်း ဖြည်းဖြည်း လေးလေး အေးအေးဆုံးမတတ်သလို ပြင်းပြင်းပြုံ့ ဆုံးမ ကံမြစ်တတ်သည်လည်း ရှိသည်။ ဆုံးမရာ၌ ရံခါ လမင်းလိုကျင့်၍ ရံခါတွင် နေခင်းလိုကျင့်ရသည်။ လမင်းလိုချည်း အေးအေးမြမြ ပျောင်းပျောင်းပျပျ ပြောနေလျှင် လိုက်နာလိုမှ လိုက်နာကြမည်။ ထိုအခါ နေမင်းပူသလို ပူပူပြင်းပြင်း နာနာကျည်းကျည်း ဆိုတန် ဆိုရသည်။ တပည့်တို့က လည်း အစားစားရှိသည်။ သာသာယာယာဆုံးမ၍ နားဝင်သူရှိသလို နာနာကျည်းကျည်းပြောမှ နာယူသူလည်းရှိပေသည်

ဆရာတော်တို့ငယ်စဉ်က လူငယ်စိတ်ဖြင့် တော်တော် ပေပေတေတေနိုင်ခဲ့သည်။ ဂျပန်များ သုံးနှစ်သုံးမိုး အုပ်စိုးနေသော ခေတ်က မြို့ကြီးများတွင် စာသင်တိုက်များဖရိုဖရဲဖြစ်၍ ဇာတိတောရွာကျောင်းသို့ ပြန်ရောက်နေခဲ့သည်။ ဆရာတော်တို့ဇာတိကျောင်းတွင် စာသင်တိုက်ပြန်ဦးပဉ္စင်းငယ် သုံးလေးပါး ရှိနေသည်။ တောကျောင်းအလျောက်စာလည်းကောင်းစွာမသင်ဘဲ ဟိုရွာ သည်ရွာ လည်ပတ် သွားလာနေကြသည်။ ရပ်ရွာဒါယကာ ဒါယိကာမ များကလည်း 'မြို့ပြန်ကိုယ်တော်ကလေးများ' ဆိုကာ အလိုလိုက်ကြသည်။ ဟိုအိမ်ကပင့် သည်အိမ်ကလာခေါ်နှင့် ပျော်တပြုံးပြုံးဖြစ်နေကြပေသည်။ လူကြီး လူရွယ်တို့နှင့် သာမက လူငယ် လူရွယ်၊မိန်းမပျို လုံမပျိုကလေးများ၊ နှင့်လည်း မြို့ပြန် ဦးပဉ္စင်းကလေးများ ဟာရောရောတနှော့နှော့။

ဤသည်ကို ရပ်ရွာက မည်သို့မျှမပြောသော်လည်း ကျောင်းနေ ဆရာတော်ကြီးကမူ ကြည့်၍ရဟန် မတူတော့၊ တပည့်ဦးပဉ္စင်းတွေ တောရွာမှာ ပျော်နေတာကအရေးမကြီး၊ ကြာသော် တစ်ပါးမျှကျန်တော့မည်မထင်၊ ဆုံးမမှ ဖြစ်တော့မည်ဟု စိတ်ကူးမိ၍ပထမတွင် အသွားအလာဆင်ခြင်ကြဖို့ စားဝိုင်းသောက်ဝိုင်းမှာပင် အရိပ်အခြည်မျှ မိန့်ကြားသည်။ ခေတ္တမျှသာကိုယ်ရှိန်သတ်သွားကြသည်။ မကြာမီ ရှေးအတိုင်းဖြစ်သွားမြဲသွား လာမြဲလာ ဖြစ်နေကြပြန်သည်။ ထို့နောက် တစ်ပတ်ခန့်အကြာတွင် ဆရာတော်ကြီးသည် ဦးပဉ္စင်းများကိုခေါ်၍ ပါဠိဂါထာတစ်ပုဒ်ကိုကျောင်းသားများကို စာပြနေကျသင်ပုန်းကြီးပေါ်တွင်မြေဖြူဖြင့် ရေးပြပြီး အနက်ရေးခဲ့ကြဟု မိန့်တော်မူ၏။ ဆရာတော် ရေးပြသော ဂါထာမှာ–

ပါကာဒဋ္ဌသုဝါနောပိ၊
ပရိဠမတိ တံဌာနံ။
ဇွံကာမဂဝေသန္တော၊
စက္ကာဘဋ္ဌိကပုဂ္ဂလော။

ဟူ၍ဖြစ်၏၊

ဦးပဉ္စင်းတို့မှာလည်း စာသင်တိုက်၌လည်း အနေမကြာသေး၊ စာပေလည်းဟုတ်တိပတ်တိတတ်ကြသေးသူများမဟုတ်သည့် ဝါနုပဉ္စင်းငယ်များဖြစ်၍ ကိုးရိုးကားရား ထင်သလို အနက်ပေးကြသည်။ အဓိပ္ပါယ်ကိုလည်း မသိသဖြင့်ဆိုလိုရင်းကိုလည်းနားမလည်ပေ၊ နောက်တစ်နေ့တွင် ဆရာတော်ကြီးကခေါ်၍ ဦးပဉ္စင်း

ကြွလာသောရှင်မဟာကဿပနှင့်ရင်ဆိုင်မိတော့ကြသည်။ လုံမပျိုတို့သည် ရှင်မဟာကဿပအား မြင်လျှင် မြင်ချင်း အလွန်ကြည်ညိုသောစိတ် ဖြစ်ပေါ်လာသောကြောင့် မိမိတို့စားရန် ယူဆောင်လာသည့် လမုန့်တို့ကို ဆက်ကပ်ကြသည်။ မထေရ်သည် ထိုလမုန့် ငါးရာတို့ကို သပိတ်တစ်လုံးတည်းဖြင့်ဆံ့အောင်အဓိဋ္ဌာန်ပြု၍ခံယူတော်မူသည်။ ထို့နောက် မြတ်စွာဘုရားနှင့် သီတင်းသုံးဖော်တို့အား လှူဒါန်း၍ မိမိလည်း သုံးဆောင်တော်မူသည်။

ကုလ္လဝိသ အာဇွေးဝတ္ထု၌ ရှင်မောဂ္ဂလ္လာန်သည် ရာဇဂြိုဟ်မှ ကုလ္လဝိသ သူဌေးလှူလိုက်သော မုန့်တစ်တောင်းကို မြတ်စွာဘုရားနှင့်တကွ ဇေတဝန်ကျောင်းရှိ ရဟန်းအားလုံး သုံးဆောင်ကြသော်လည်း မကုန်ခန်းနိုင်အောင် အဓိဋ္ဌာန်ပြုတော်မူခဲ့၏။ ၎င်းပြင် သူဆင်းရဲ ကာကဝလ္လိယ၏ ဇနီးက ရှင်မဟာကဿပအား လောင်းလှူလိုက်သော ယာဂု တစ်သပိတ်စာကို မြတ်စွာဘုရားက ကျောင်းရှိ ရဟန်းအားလုံး သုံးဆောင်လောက်အောင် အဓိဋ္ဌာန်ပြုတော်မူခဲ့ကြောင်း အဆိုရှိပါသည်။

သီဟိုဠ်ကျွန်းမှ မဟာအနုဠမည်သော မထေရ်သည်ကား ဟင်းမရ၍ ဆွမ်းသက်သက်ကိုသာ ဘုဉ်းပေးနေရသောရဟန်းတို့အတွက် ဂင်္ဂါမြစ်ရေမှ ယောပတ်ဖြစ်အောင် အဓိဋ္ဌာန်ပြုပေးခဲ့သည်ဟုဆိုပါသည်။

"ကုဒ္ဒိဝိသယော အစိန္တေယျော" ဟူသော ဟောကြားချက်နှင့်အညီ ဈာန် အဘိညာဉ်တို့၏ တန်ခိုးစွမ်းအင်များကား သာမန်လူတို့၏ ဉာဏ် အမြင်အားဖြင့် ကြံစည် စိတ်ကူးခြင်းငှာ မစွမ်းနိုင်အောင် ထူးခြားဆန်းကြယ်လှပါပေသည်။ ။

(ဓမ္မာစရိယ) ဦးမောင်မောင်လေး

စာမျက်နှာ(၄၅)မှအဆက်

တွင် ခဏ္ဍသိမ်ဟစ်သိမ်ကို သမုတ်လေသည်။ ထိုသိမ်၏ အမည်ကို သီဟိုဠ်ကျွန်း ကလျာဏီမြစ် ဥဒကုက္ခေပ သိမ်၌ရဟန်းခံလာကြသော ရဟန်းသံဃာတော်များ သမုတ်သောကြောင့် ကလျာဏီ သိမ်ဟု မှည့်ခေါ်လေသည်။ ယနေ့ထက်တိုင် ပဲခူးတွင် ရှိနေသော ကလျာဏီသိမ်မှာ ထိုသိမ်ပင်ဖြစ်လေသည်။ ရာမညတိုင်းရှိရဟန်းတော်ပေါင်းများစွာတို့သည် ကလျာဏီသိမ်၌ သီဟိုဠ်ကျွန်းမှပြန်ကြွလာကြသော ရဟန်းသံဃာတော် အရှင်မြတ်များထဲတွင် ဉပသမ္ပဒပဥ္စင်းအဖြစ် အသစ်တဖန် ခံကြလေသည်။ ထိုရဟန်းတော်များကတဆင့် အခြားရှင်သာမဏေများကို ရဟန်းခံ ပေးကြ လေသည်။ ယင်းသို့လျှင် ဓမ္မစေတီမင်းကြီးသည် ရာမညတိုင်း၌ သာသနာတော်ကို စင်ကြယ်သွားအောင် ပြုပြီးလျှင် စည်းလုံး ညီညွတ်သော၊ စင်ကြယ် သန့်ရှင်းသော သာသနာ ဂိုဏ်းကြီး တစ်ဂိုဏ်းဖြစ်အောင် ကြိုးပမ်းအားထုတ်ခဲ့လေသည်။ ထိုဂိုဏ်းကြီးမှာ သီဟိုဠ်ကျွန်း မဟာဝိဟာရဝါသီဂိုဏ်း၏ အစဉ်အလာကို လိုက်နာကျင့်သုံးသောသာသနာဂိုဏ်းကြီးဖြစ်လေသည်။ ရာမညတိုင်း၏ ထိုဂိုဏ်းဝင် ရဟန်းသံဃာများအနက် ဂဏာစရိယ ဂိုဏ်းချုပ်ဆရာတော်များမှာ ရှစ်ရာမျှ ရှိပြီး ပဉ္စင်းငယ်တို့၏ အရေအတွက်မှာမူ တစ်သောင်းလေးထောင်နှစ်ရာ ခြောက်ဆယ် ရှိသည်။ စုစုပေါင်း သံဃာတော်များမှာ တစ်သောင်းငါးထောင် ခြောက်ဆယ့်ငါးပါး(၁၅၀၆၅))ရှိသည်။

သီဟိုဠ်ကျွန်းသို့ ကြွသွားသော ရဟန်းများထဲတွင် ဗုဒ္ဓဃောသအမည်ရှိရဟန်းတစ်ပါးပါသည်။ ထိုရဟန်းတော်သည် ဝါရိရှ မွေသတ်ကို မွန်ဘာသာမှ မြန်မာဘာသာပြန်ဆိုခဲ့လေသည်။ ဓမ္မစေတီမင်းကြီးကိုယ်တိုင်ကသည်း တရားဖြတ်ထုံးများ၌ ထင်ရှား ကျော်ကြားသောဘုရင်တစ်ပါးဖြစ်လေသည်၊ ဓမ္မစေတီဖြတ်ထုံးဟူ၍ပင် ထင်ရှားသောဖြတ်ထုံးများ ရှိလေသည်။

ဓမ္မစေတီမင်းကြီးသည် သီဟိုဠ်ကျွန်းသို့ သာသနာ့ကိုယ်စားလှယ် အဖွဲ့များ စေလွှတ်ပုံ၊ ရာမညတိုင်း၌ စည်းလုံးညီညွတ်ပြီး စင်ကြယ်သန့်ရှင်းသော သာသနာဂိုဏ်းကြီး တစ်ဂိုဏ်း ဖြစ်အောင် ကြိုးပမ်းပုံများကို ကျောက်ချပ် ဆယ်ချပ်တွင် ပါဠိဘာသာဖြင့် လည်းကောင်း၊ မွန်ဘာသာဖြင့်လည်းကောင်း ကျောက်စာရေးထိုးမှတ်တမ်းတင်ထားလေသည်။ ထိုကျောက်စာများသည် ပဲခူးမြို့၊ ရွှေသာလျောင်းဘုရား ကလျာဏီ သိမ်တော်ကြီး၏ အနီး၌ ယခုထက်တိုင်ပင် ထင်ရှား ရှိနေပေသည်။

မါရဂူ



**စာမျက်နှာ (၂) မှအဆက်**

ဩကာသဘုရားရှိခိုးကတော့ ရတနာမြတ်သုံးပါးအား ကောင်းပန်ရှိခိုးဖို့ကိစ္စသာ ဖြစ်ပါတယ်ကွာ။"

"ဟုတ်ကဲ့ ဘဘ၊ ကျွန်တော်သဘောပေါက်ပါပြီ"

"အေး....သောတာပန်အရိယာများရဲ့ ဥဇုဂုဏ်က ကလျာဏ ပုထုဇဉ်တို့ပင် ဆင်ခြင်နိုင်စွမ်း မရှိသော ပစ္စဝေက္ခဏာ ၇-ပါး ရှိပါသေးသတဲ့။ ဥဇုဂုဏ်က ပစ္စဝေက္ခဏာ ၇-ပါးမှ စတုတ္ထမြောက်ပစ္စဝေက္ခဏာ ဖြစ်ပါသတဲ့။"

"အဲဒီပစ္စဝေက္ခဏာ (၇) ပါးစလုံးကို သိပါရစေ ဘဘ"

"အေး....အဲဒီပစ္စဝေက္ခဏာ (၇) ပါးကိုသပြေကန် ဆရာတော်ဘုရားက မူလပဏ္ဏာသ ကောသမ္ဗိယသုတ်မှ ထုတ်နုတ်ပြီး ပရိတ်ကြီးနိဿယသစ်မှာ ယခုလိုရေးသား ထားတော်မူပါတယ်။

(၁) သောတာပန်သည် (အမှန်တရားတို့ကို) အမှန်အတိုင်းမသိမမြင်နိုင်အောင် ပိတ်ပင် တားဆီးတတ်သော ပရိယုဋ္ဌာန ကိလေသာ များ၊ မိမိ၌မပယ်ရှားရသေးသည် မရှိ။ မိမိ စိတ်မှာ သစ္စာတို့ကိုသိမြင်ခြင်းငှာကောင်း စွာထား အပ်ပြီးဖြစ်ကြောင်း သိ၏။ ဤအသိ မှာပုထုဇဉ်တို့နှင့်မဆိုင်။ အရိယာတို့နှင့်သာ ဆိုင်သော လောကုတ္တရာအရ ဖြစ်လာရ သောအသိဉာဏ်ပင်ဖြစ်သည်။

(အဲဒီသဘောက ပရိယုဋ္ဌာနကိလေသာ များကို ကင်းစင်နိုင်အောင်၊ သစ္စာ ၄-ပါးနှင့် နိဗ္ဗာန်တရားကို မြင်ထားပြီလို့ မိမိကိုယ်ကို ဆင်ခြင်တဲ့ သဘော။)

(၂) ဤအသိဉာဏ်ကို မှီဝဲ ပွားများ၊ အကြိမ် များစွာ အလေ့အလာ ပြုနေရသော ငါ သည် မိမိစိတ်၌ ငြိမ်သက်တည်ကြည်ခြင်းကို ရပါ၏လော။ ကိလေသာငြိမ်းအေးခြင်းကို ရပါ၏လော–ဟု ဆင်ခြင်သော အရိယာ သာဝကသည် ထိုသို့သောတည်ကြည်ခြင်း၊ ငြိမ်းအေးခြင်းမျိုးကိုရ၏–ဟုသိ၏။ ဤအသိ လည်း ပုထုဇဉ်တို့နှင့် မဆိုင် အရိယာများ သာရပိုင်သော အသိဉာဏ်ဖြစ်သည်။

(အဲဒီသဘောကတော့ ဝိပဿနာအနေနဲ့ အဖန်ဖန် ပွားများအပ်သော အရေအတွက်မှ တည်ငြိမ် အေး ချမ်းသော အရည်အချင်းသို့ ဆိုက်ရောက်နေပြီ ဖြစ် ကြောင်းကို အမှန်အတိုင်း ဆင်ခြင်တဲ့သဘော။)

(၃) မိမိရသော မဂ်ဉာဏ်အမြင်မျိုးရထားသော ဤသာသနာမှ ပြင်ပသာသနာ ဖြစ်သော အမည် ခံ ပုဂ္ဂိုလ်များ ရှိပါသေးသလော–ဟု တွေး တောစဉ်းစားသော အရိယာသာဝကသည် မိမိရသော မဂ်ဉာဏ်မျိုး ရထားသော တခြားသာသနာပြင်ပ ဖြစ်သော ပုဂ္ဂိုလ်များမရှိ ဟု ပိုင်နိုင်စွာ သိသည်မှာလည်း ပုထုဇဉ် တို့နှင့်မဆိုင်၊ အရိယာများသာ ရပိုင်သော အသိဉာဏ်ပင် ဖြစ်သည်။

(အဲဒီသဘောက ဘုရားဟောတော်မူသော သစ္စာ လေးပါးတရားတော်သည် ဤသာသနာတော်၌ ဗုဒ္ဓ ကိုယ်တော် တစ်ပါးတည်းသာ ဟောပြနိုင်စွမ်း ရှိ၏။ ဗုဒ္ဓမှတစ်ပါး မည်သည့်ပုဏ္ဏား ရဟန်း၊ တိတ္ထိ တို့က မဟောနိုင်ဟု စင်စစ်အေန် ဆင်ခြင်နိုင်တဲ့သဘော။)

(၄) အပြစ်ကိုမဖုံးလွှမ်းခြင်း။

(အဲဒါကတော့ ဥဇုဂုဏ်ပေါ့ကွယ်။)

(၅) မွေးခါစ သားငယ် နွားကလေးရှိသော သားသည်အမိနွားမသည် လွဲသော်၍ မြက် ကို စားနေရသော်လည်း မိမိ သားငယ် ကလေးကို စောင်းကာငဲ့ကာ ကြည့်ကြည့် ဖြစ်နေရှာသကဲ့သို့ မလွဲသော်၍ သီတင်းသုံး ဖော်များ၏ ကိစ္စကြီးငယ်ကို ပြုနေရသော် လည်းမိမိစိတ်မှာ သိက္ခာ(၃)ပါး ကျင့်ရေး ၌သာ ငဲ့ကွက်လိုလားလျက်ရှိသည်မှာ အရိ ယာတို့၏သဘာဝတစ်ရပ်ပင်။ ထိုသဘာဝ မျိုး ငါ့မှာရှိသည်ဟု သိသည်မှာ ပုထုဇဉ် တို့နှင့်မဆိုင် အရိယာတို့သာ ရပိုင်သော အသိဉာဏ်ပင်ဖြစ်သည်။

(အဲဒီသဘောကတော့ မင်း နားလည်လောက်ပါ တယ်ကွယ်။ လူမှုရေးအရ ကိစ္စကြီးငယ်ကိုပြုနေရသော် လည်း 'သီလ၊ သမာဓိ၊ ပညာ' သိက္ခာ ၃-ပါးကိုသာ အာရုံစွဲကပ် အမြဲမပြတ်ရှိနေသည့် သဘော။)

"ကောင်းပြီ၊ ငါ့သားတော်ရဲ့ ပညာကျေးဇူးဂုဏ်ကို အဘူးပူဇော်ကြရမယ်၊ မိထိလာနေပြည်တော် ထက် ဝန်းကျင်အနေပြည်ဒေသအားလုံးကို စည်လှည့်စေရမယ်၊ မိနေ့ကစပြီး ခုနစ်ရက်ပတ်လုံးအခြားတစ်ပါးမည်သည့် ကိစ္စကိုမှ မဆောင်ရွက်ကြစေနဲ့၊ မူး မတ် ပြည်သူ ပြည်သား အပေါင်းတို့ဟာ မိမိထိုက်တန်ရာ ပဏ္ဏာ လက်ဆောင်များနဲ့အဆောင်အယောင်အချီးအမြောက် နဲ့တကွ သားတော်ကို ပူဇော်ချီးမြှောက်ကြရမယ်"

ဝိဒေဟရာဇ်မင်းကြီးနှင့် ဥဒုမ္ဗရဒေဝီ မိဖုရားကြီးမှ စတင်ပါဝင်သည့် ပူဇော်ချီးမြှောက်သောပွဲ၌ မိထိလာ တစ်ပြည်လုံးအုန်းအုန်းကျွက်ကျွက် ပူဇော်ပွဲသဘင်ကြီး ကိုကျင်းပကြပြန်သည်။ အချိန်တိုင်း နေရာတိုင်းတွင် 'မဟောသဓာသုခမိန်၊ မဟောသဓသုခမိန်' ဟူသော အသံကြီး ကြွေးကြော်သံတို့သာ အဆက်မပြတ် ပြည့်လျှံနေသည်။

ဤသို့ဖြင့်ပူဇော်သဘင်အခါသည် ခုနစ်ရက်မြောက် ကာ ပြီးရက်ရောက်ခဲ့လေသည်။

ရှစ်ရက်မြောက်နေ့တွင် မဟောသဓသည် ဝိဒေ ဟရာဇ်မင်းကြီးထံ အခစားဝင်ခဲ့ပြီးနောက်–

"ခမည်းတော်မင်းမြတ်၊ စူဠနီ ဗြဟ္မဒတ် မင်းနဲ့ မယ်တော် သားတော် သမီးတော် မင်းသုံးပါးကို မဏ္ဍာသရာဇ်ပြည် ပြန်ပို့ဖို့ အချိန် ကျရောက်ပါပြီ"ဟု လျှောက်တင်လေသည်။

\+ \+ \+

မိထိလာပြည်နှင့် ဥတ္တရပဉ္စာလရာဇ်ပြည်။

ဝိဒေဟရာဇ်မင်းကြီးနှင့် စူဠနီဗြဟ္မဒတ်မင်း။

မင်းနှစ်ပါးတို့သည် မေတ္တာချင်းယှက်နွယ်ကာချင်း တွဲမိကြပြီ။ တစ်ပြည်မှ တစ်ပြည်၊ ထိုက်လျောက်ရာ လက်ဆောင်ပဏ္ဏာများ၊ သံကြီးတမန်ကြီး၊ ပညာရှိ သုခမိန်အမတ်ချင်းလည်း အပြန်အလှန် စေလွှတ်ခြင်း၊ နှစ်သက် ဝမ်းမြောက်၊ ရွှင်လန်း ငွေလမ်း ဖောက်ခဲ့ ကြပြီး၊ ကုန်သည် ပွဲစားရောင်းဝယ်သမားတို့ဖြင့်လည်း ဖောက်ကားစည်ကားထွန်းကားခဲ့ကြပြီးတိုင် ကြီးနှစ်ပါး တို့သည် ရွှေပြည်မြေနှစ်ချပ်ကို တစ်ထပ်တည်း ဂဟေ ဆော်သကဲ့သို့ အစဉ်အခြားမပျက် တစ်ဆက်တည်း ရှိကြပြီး ... ရန်သူမင်းလည်း ညီရင်းဖြစ်ခဲ့ပေပြီ။

ဝိဒေဟရာဇ် ရှင်သည်လည်း ပြန့်ပွားထပ်ဆင့်၊ မြင့် မြတ်သောဂုဏ်ကျက်သရေဖြင့်ပိုမိုထွန်းတောက်ခဲ့ပေပြီ။

မိထိလာပြည်၊ ပဉ္စာလရာဇ်ပြည် နှစ်ပြည်သော ပြည်သူလူထုအပေါင်းတို့မှာလည်း လယ်ယာလုပ်ငန်း မပျက်၊ ရောင်းဝယ် ကူးသန်း မပျက်၊ ဘုရားတည် ကျောင်းဆောက်မပျက် နှစ်ဘက်သော ငြိမ်းအေး ချမ်းမြေ့မှုအရသာကိုဝလင်ပျော်ရွှင်စွာ ခံစားချိုးသုံး နိုင်ကြပေပြီ။

ရန်ဘက်စင်စစ် ဖြစ်ခဲ့သော်ငြား ရှုံးသူ နိုင်သူ ရလဒ်မဟုတ်ဘဲ အသီးသီးအသက ပြည့်ဝနှစ်ခြိုက် စွာ ကျေနပ်ဝမ်းမြောက်နိုင်ခဲ့ကြပေပြီ။

ကမ္ဘာလောက၏ ကြီးမားလှသော အကျိုးကျေးဇူး ကိုဆောင်ကြဉ်းသူ၊ မေတ္တာတရားဖြင့်ပေါင်းဖျန်းချမ်းမြေ့ စေသူ၊ ဇမ္ဗူဒိပ်တွင် ကောင်းခြင်းနိမိတ်ကိုဆောင်ကာ ငြိမ်းချမ်းရေးလေထုအလျဉ်ဖြင့် ဖုံးလွှမ်းစေသူ၊ အလုံး စုံသောသစ်ပင် တောတောင်ပန်းမာလ်တို့၌ ငြိမ် ချမ်း ရေးမွှေးရနံ့ဖြင့် ထုံပျံ့စေသူကား....

မဟောသဓသုခမိန်၊ သို့မဟုတ်- ငြိမ်းချမ်းရေးမဟာ တမန်။ ။ ပြီးပါပြီ

နောက်ဆက်တွဲနိဂုံး

ဤ'ငြိမ်းချမ်းရေးမဟာတမန်'ဝတ္ထုကို ရေးသား ရာတွင် အစမှအဆုံးတိုင် လက်ရင်းထား၍မှီငြမ်း ကိုး ကားခဲ့ရသော လုမ်းကား (မင်းဘူး ဆရာတော် ဦးသြဘာသ၏မဟောသဓဇာတ်တော်ကြီး ဒုတိယတွဲ) ဖြစ်ပါသည်။

ဇာတ်ကြီးဆယ်တွဲ၏ မဟောသဓ ဇာတ်တော်ကြီး ဒုတိယပိုင်းကို ဝတ္ထုအသွင်ဖြင့် 'ငြိမ်းချမ်းရေးမဟာ တမန်'အမည်ပေးကာ ရေးဖွဲ့ခဲ့ရာ၌မူ၊ လက်ရင်းထား သောဆရာတော် ဦးသြဘာသ၏ ဂုဏ်ကျေးဇူးတော် ကား စာရေးသူအတွက် ကြီးမား ပြန့်ကျယ်လှပါတိ သည်။

ဆရာတော်ဘုရားကြီး၏ ပညာဂုဏ်၊ သီလဂုဏ်၊ သမာဓိဂုဏ် ကျေးဇူးပေါ်အစုံနှင့် လေးနက်ကြီးမြတ် တော်မူလှသော စာပေကျက်ကျေးဇူးတို့အားလက်အုပ် ကြာပဒုံချီ၍ အလီလီဦးခိုက် ပူဇော်အပ်ပါကြောင်း ဖြင့်....

'ငြိမ်းချမ်းရေးမဟာတမန်'ကို နိဂုံးချုပ်ပါသည်။

လေးစားသော

ချစ်ဦးညို၊